# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၆ (မနသ)

၂၀၁၆ ခုနှစ် မတ်လ ရက်

၁။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီး ခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း ရှိ မြေ ဧရိယာ ၁၂.၀၇ ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၀၈/၂၀၁၆)ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ "ခွင့်ပြုမိန့်ထုတ်ပေးရန်"ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်)အား နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊မနသ- /၂၀၁၆ ကိုထုတ်ပေးလိုက်သည်။

၂။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေ ခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်း လွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤ ကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများ အတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ** ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထား၍ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၅။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော နှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ်ပါ စည်းမျဥ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ် (၅၀)နှင့် သက်တမ်း တိုးမြှင့်မည့် ကာလ

မှာ(၁၀)နှစ်သက်တမ်း(၂)ကြိမ်ဖြစ်သည်။ ထိုသို့စာချုပ်သက်တမ်းကာလတိုးမြှင့်ခြင်းအားကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၇။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီလီမိတက်)သည် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနသို့ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ် ၅၀,၀၀၀ (ကျပ်ငါးသောင်း တိတိ)နှုန်းဖြင့် မြေ(၁၂.၀၇)ဧက အတွက် စုစုပေါင်း ကျပ် ၆၀၃,၅၀၀ (ကျပ် ခြောက်သိန်း သုံးထောင့် ငါးရာတိတိ) ကို စာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၃၀)အတွင်း မြန်မာ့စီးပွားရေးဘဏ်၊ နေပြည်တော်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ပေးသွင်းရမည်။

၈။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် နှစ်စဉ်မြေငှားရမ်းခ အဖြစ် တစ်ဧကလျှင် ကျပ် ၂၀၀,၀၀၀(ကျပ်နှစ်သိန်း တိတိ)နှုန်းဖြင့် စုစုပေါင်း ဧရိယာ(၁၂.၀၇)ဧက အတွက် ကျပ် ၂,၄၁၄,၀၀၀ (ကျပ်နှစ်ဆယ့် လေးသိန်း တစ်သောင်း လေးထောင်တိတိ)ကို စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်ဖြစ်ပြီး နောင်နှစ်များတွင် နှစ်စဉ်သက်တမ်းမစတင်မီ ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်။

၉။ မြေငှားရမ်းခကို (၅)နှစ်လျှင် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ် ပြန်လည်ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက်ညှိနှိုင်း၍ စာချုပ်ပါမူလငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်ရမည်။

၁၀။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် နိုင်ငံတကာ အဆင့်မီဟိုတယ် စီမံကိန်းဆောင်ရွက်ရန် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ မြေပြုပြင်ကာလ(၆)လ နှင့် ဟိုတယ်တည်ဆောက်ရေးကာလ(၁၈)လ ၊ စုစုပေါင်း(၂၄)လအတွင်း ပြီးစီးအောင်တည်ဆောက် ဖွင့်လှစ်ရမည်။

၁၁။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်)တို့ ချုပ်ဆိုမည့် နှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ တစ်လ အတွင်း ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်စီကို ဤ ကော်မရှင်သို့ မပျက် မကွက်ပေးပို့တင်ပြရမည်။

၁၂။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် ဟိုတယ်အဆောက်အအုံဆောက်လုပ်ပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်းလိုင်စင်ရရှိရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၁၃။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် နှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ် သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ် တစ်ဦးဦး

အား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်း တို့ကို ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

၁၄။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် တစ်နှစ်ငှားရမ်းခ ဖြစ်သော ကျပ် ၂,၄၁၄,၀၀၀ (ကျပ် နှစ်ဆယ့် လေးသိန်း တစ်သောင်း လေးထောင် တိတိ)အား မြန်မာ့ စီးပွားရေး ဘဏ်၊ နေပြည်တော်တွင် သစ်တောဦးစီး ဌာန အမည်ဖြင့် စာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၃၀) အတွင်း ဘဏ်အာမခံ ထားရှိပေးရ မည်။

၁၅။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၆။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာ တွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေများ ပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီ စေရန်လည်းကောင်း လိုက်နာဆောင်ရွက် ရမည်။

၁၇။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက် ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့ အတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း လုပ်ငန်း (Initial Environmental Examination - IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့အစီရင်ခံ ရမည်။

၁၈။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်)သည် အဆိုပြုလုပ်ငန်းဆောင်ရွက် ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်း ဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက် ရမည်။

၁၉။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေး အန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်

တကျ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၂၀။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၂၁။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် ကနဦးလုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေ အနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၃။ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန/ အဖွဲ့အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

၂၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသောလုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း

သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သောနာမည် ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၅၁၉/၂၀၁၆(                )

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ           ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး၊ တောင်ကြီးမြို့
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
မန်နေဂျင်းဒါရိုက်တာ၊ Hu Pin Company Limited (ဟူပင် ကုမ္ပဏီ လီမိတက်)

၁၁၄-၅၀
7/3/16

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၄ ရက်

အကြောင်းအရာ။ Hu Pin Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ညောင်ရွှေမြို့နယ်၊ခေါင်တိုင်ကျေးရွာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

၁၃-၄၃၀
7/3

၁။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကော်မရှင်၏(၉/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ(မူကြမ်း)**တို့ အားပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | (signature) 4/3/16 | (signature) 4/3/16 | (signature) 4/3 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ MIC (9/2016) အစည်းအဝေးသို့ တင်ပြမည့် အမှာစာအား တင်ပြအပ်ပါသည်။

(signature) 4-3-16.
(ဒေါ်[illegible])

ညွှန်ကြားရေးမှူး

၃။ ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အမှာစာကို [illegible]
မှတ်ချက် [illegible] တင်ပြအပ်ပါသည်။

(signature)
၄-၃-၂၀၁၆
([illegible])

ဒုညွှန်ချုပ်

၄။ [illegible]
[illegible]
[illegible]
[illegible]

(signature)

ညွှန်ချုပ်ရုံး-၃၊

**Hu Pin Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီး ခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့တင်ပြရန်ကြာချိန်**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၁၉-၁-၂၀၁၆ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး | ၂၀-၁-၂၀၁၆ | ၁-၃-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၀-၁-၂၀၁၆ | ၈-၂-၂၀၁၆ | |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန | ၂၀-၁-၂၀၁၆ | ၁၉-၂-၂၀၁၆ | |
| ၃။ | PATအစည်းအဝေး(၄/၂၀၁၆)(၂၅-၁-၂၀၁၆) သို့ တင်ပြခြင်း | ၂၅-၁-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၂-၂-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| ၅။ | ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက် နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပေးပို့ခြင်း ကုမ္ပဏီမှအဆိုပြုလွှာ(၁၅)စုံ ပြန်လည်ပေးပို့ခြင်း | ၂၀ -၂-၂၀၁၆ | | |
| ၆။ | PATအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီ မှ ပြင်ဆင်တင်ပြခြင်း | ၄ -၃-၂၀၁၆ | | |
| ၇။ | ကော်မရှင် အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/ နေ့ရက် | ၉/၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၄၄)ရက်** | | |

**Hu Pin Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင် ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>လုပ်ငန်းအဆိုပြုသူအမည်<br>အဖွဲ့အစည်းပုံသဏ္ဍာန်<br>အဆိုပြုလုပ်ငန်းအမျိုးအစား<br>လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း | - Hu Pin Company Limited<br>- ဒေါ်ကြူကြူသင်း<br>- လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။)<br>- နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တော ဦးစီးဌာနပိုင် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီး ခရိုင်၊ ညောင်ရွှေ မြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ ဧက |
| ၂။ | တည်ဆောက်ရေးကာလ<br>ပဏာမစူးစမ်းလေ့လာမှုကာလ | - ၁၀ လ<br>- ၆ လ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး (၅၀)နှစ်၊နောက်ထပ်(၁၀)နှစ် (၂)ကြိမ် |
| ၄။ | မြေငှားစာချုပ်(မူကြမ်း)ပါအဓိက<br>အချက်များ | ပြည်ထောင်စုရွှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက် နှင့် အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန နှင့် Hu Pin Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)ပါ အဓိက အချက်များ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-<br>(၁) မြေတည်နေရာသည် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်ကိုယ်စား၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံ ခန့်ခွဲပိုင်ခွင့်ရှိသော၊ သဘာဝနယ်မြေ တစ်ခုဖြစ်သည့် အင်းလေးကန်တောရိုင်း တိရစ္ဆာန်ဘေးမဲ့တော ဟု သတ်မှတ်ထားသော မြေပုံတွင် အမှတ်အသား ပြထားသည့် ဘောင်အတွင်းရှိ မြေဧရိယာ (၁၂.၀၇) ဧကဖြစ်ပါသည်။ **အပိုဒ်-၅(၁)**<br>(၂) မြေငှားရမ်းကာလမှာ စာချုပ် လက်မှတ်ရေးထိုးသည့် နေ့ မှ စတင်၍ ကနဦး နှစ်(၅၀)နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ဖြင့် **နောက်ထပ်(၁၀) နှစ်(၂)ကြိမ်သက်တမ်းတိုးမြှင့်မည် ဖြစ်ပါသည်။** **အပိုဒ်-၅(၂)**<br>(၃) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ကျပ် ၅၀,၀၀၀ နှုန်းဖြင့် မြေ (၁၂.၀၇) ဧကအတွက် ကျပ် ၆၀၃,၅၀၀ ကို စာချုပ်ချုပ်ဆို လက်မှတ်ရေး ထိုးပြီး |

| | | |
|---|---|---|
| | | ရက်ပေါင်း(၃၀) အတွင်း ပေးသွင်းရမည် ဖြစ် သည်။ အကယ်၍ သတ်မှတ် ကာလထက် နောက် ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေ ကျပ် ၂,၀၀၀နှုန်းဖြင့်ပေးဆောင်ရမည်။ **အပိုဒ်-၉(၁)**<br>(၄) မြေအသုံးချမှု အတွက် ပရီမီယံကြေး ပေးသွင်းရာတွင် အငှားချထားသူ၏ နေပြည်တော် မြန်မာ စီးပွားရေးဘဏ်တွင် သစ်တောဦးစီး ဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းသို့ ပေးသွင်းရမည်။ **အပိုဒ်-၉(၂)**<br>(၅) မြေငှားရမ်းခမှာ တစ်နှစ် တစ်ဧကလျှင် ကျပ် ၂၀၀,၀၀၀ နှုန်းဖြင့် စုစုပေါင်းမြေ ၁၂.၀၇ ဧက အတွက် ကျပ် ၂,၄၁၄,၀၀၀ ကို နှစ်ဦးနှစ်ဖက် စာချုပ်လက်မှတ်ရေးထိုးပြီးရက်ပေါင်း(၆၀) အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ နောင်နှစ်များ တွင်လည်း နှစ်စဉ်သက်တမ်းမစတင်မီရက်ပေါင်း (၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ အကယ်၍ သတ်မှတ် ကာလထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် ၅,၀၀၀ နှုန်း ပေးဆောင်ရမည်။ **အပိုဒ်-၁၀(၁)**<br>(၆) မြေငှားရမ်းခ နှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည် ချုပ်ဆိုသည့်အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက်ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၀%ထက် မပိုသောနှုန်းထားဖြင့် ပြန်လည်ပြင်ဆင် သတ်မှတ်သွားမည်ဖြစ်ပါသည်။ **အပိုဒ်-၁၀(၂)**<br>(၇) Hu Pin Company Limited မှ လုပ်ငန်း ဆောင်ရွက်မှု ဘဏ်အာမခံငွေ အဖြစ် တစ်နှစ်ငှားရမ်းခဖြစ်သော ကျပ် ၂၄၁၄၀၀၀ ကို ဘဏ်အာမခံထားရှိရမည်။ အဆိုပါ ဘဏ်အာမခံငွေကို စာချုပ်ချုပ် ဆိုပြီးရက်ပေါင်း(၃၀) အတွင်းပေးသွင်းရမည်။ Hu Pin Company Limited သည် ငှားရမ်းကာလ ပြီးဆုံးသည့် အချိန်တွင် ဘဏ်အာမခံငွေကို ပြန် လည်ထုတ်ယူနိုင်သည်။ **အပိုဒ်-၂၄(၁)** |

| | | |
|---|---|---|
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု**<br>- ငွေသား<br>- ဟိုတယ် လုပ်ငန်းသုံး ပစ္စည်းများ<br>- အဆောက်အဦများ | - **ကျပ် ၃၀၀၀.၀၀ သန်း**<br>- ကျပ် ၁၁၅၀.၀၀ သန်း<br>- ကျပ် ၉၅၀.၀၀ သန်း<br>- ကျပ် ၉၀၀.၀၀ သန်း |
| ၆။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | (see table below) |
| ၇။ | ဝင်ငွေ<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - US$ ၂.၃၉ သန်း ၊ ကျပ် ၁၄၀.၁၆ သန်း<br>- ကျပ် ၂၂၃.၆၀ သန်း |
| ၈။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်(၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၇၄.၅၄ သန်း<br>- ကျပ် ၇.၀၀ သန်း၊ US$ ၀.၁၁ သန်း |
| ၉။ | အရင်းကြေကာလ | - (၅)နှစ် (၄)လ |
| ၁၀။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၅.၉၆% |
| ၁၁။ | လုပ်သားအင်အား<br>ပြည်တွင်း<br><br>ပြည်ပ | - **၁၄၀ ဦး**<br>- အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပြီး အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ပါသည်။<br>- မရှိပါ။ |
| ၁၂။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - ကုမ္ပဏီမှCSR(Corporate Social Responsibility)အတွက် Net Profit ၏ ၁% ကို ဘုန်းတော်ကြီးသင် ပညာရေး စနစ်များတွင်ပိုမိုကောင်းမွန်စွာသင်ကြားနိုင်စေရန်အလှူငွေများပေးအပ်လှူဒါန်းခြင်း၊ ဒေသတွင်း မီးဘေး ကင်းဝေးစေရန် မီးသတ်သင်တန်းများ အခမဲ့ပို့ချခြင်း၊ မီးသတ် ကိရိယာများ တပ်ဆင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ရာ ဒေသအနီးတဝိုက်တွင် ကျေးရွာမီးလင်းစေရန် ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ဝန်ဆောင်မှု(၆)နှစ်မြောက်:

| စဉ် | အမျိုးအစား | အခန်းအရေအတွက် | ဝန်ဆောင်မှုပေးမည့် အခန်း (Occupancy Rate %) | ဝန်ဆောင်ခနှုန်း (တစ်ရက်/ US$ |
|---|---|---|---|---|
| (က) | Superior Type | ၁၀ | ၅၀ | ၆၀ |
| (ခ) | Cottage Type | ၂၅ | ၅၀ | ၁၂၀ |
| | **စုစုပေါင်း** | **၃၅** | | |

| | | |
|---|---|---|
| ၁၃။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ်တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၄။ | လျှပ်စစ်ဓါတ်အား | - နိုင်ငံတော် အစိုးရမှ ဖြန့်ဖြူးသော လျှပ်စစ်ဓါတ်အားကို အဓိကရယူသုံးစွဲမည် ဖြစ်သော်လည်း လျှပ်စစ်ဓါတ်အား လုံလောက်မှု မရှိပါက ကိုယ်ပိုင်မီးစက် (၃၀၀ KVA) ဖြင့် အသုံးပြုသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | ငွေကြေးအထောက်အထား | - ကျပ်ငွေအထောက်အထားအဖြစ်ဒေါ်ကြူကြူသင်း နှင့် ဦးစိုးသူ အမည်တို့ဖြင့် KBZ Bank (Kyeemyindine Branch) တွင် (၁၆-၃-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၂၄,၈၆၃,၅၇၃.၀၅ ၊ ဒေါ်ကြူကြူသင်းနှင့် ဒေါ်ချိုပြုံးရီ အမည် တို့ဖြင့် AYA Bank တွင်(၁၆-၃-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၀၉,၅၉၈,၈၂၅.၂၈ နှင့် ဒေါ်ကြူကြူ သင်း၊ ဦးအောင်စန်းဝင်း အမည်တို့ဖြင့် MYANMA ECONOMIC BANK (Savings Bank Branch-1) တွင် (၁၆-၃-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ်၁၃၇,၇၉၈,၃၂၃ ရှိ ကြောင်း ဖော်ပြထားပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထားအဖြစ် Hu Pin Hotel အမည်ဖြင့် KBZ Bank (Kyauktadar-IBD Branch) တွင် (၁၃-၃-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် US$ ၁၆၈,၅၁၄.၄၅ ရှိကြောင်း ဖော်ပြထားပါသည်။ |
| ၁၆။ | စိစစ်တင်ပြချက် | (က) အဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ ဟိုတယ်လုပ်ငန်း လုပ်ကိုင်ရန်အတွက် အဆောက်အဦ ပြီးစီးမှုမှာ ၇၅% ကျော် ပြီးစီးနေကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။<br>(ခ) ယခုတင်ပြလာသည့် လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီ သည် အင်းလေးခေါင်တိုင် ဟူပင်ဟိုတယ် အမည်ဖြင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်လျက်ရှိ ပြီး ထပ်မံတိုးချဲ့မည့် လုပ်ငန်းအတွက် ခွင့်ပြုမိန့်တင်ပြလာခြင်း ဖြစ်ပါသည်။<br>(ဂ) အဆိုပြု လုပ်ငန်း ဆောင်ရွက်မည့် ပိုင်ရှင်ဖြစ်သူ ဒေါ်ကြူကြူသင်းမှ ၂၀၁၁ ခုနှစ် ပုဂ္ဂလိကပိုင် ပြုလုပ်ရေး ကော်မရှင် (၁/၂၀၁၁) အစည်းအဝေးတွင် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနမှ ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာရှိ အင်းလေးခေါင်တိုင် ဟူပင်ဟိုတယ်၏ မြေ(၃၀.၉၂)ဧကကို ဝယ်ယူခဲ့ပြီး ဖြစ်သော်လည်း ပုဂ္ဂလိကပိုင် ပြုလုပ်ရေး ကော်မရှင်၏ (၄/၂၀၁၂) အစည်းအဝေးမှ ယင်းဟိုတယ် ၏ မြေအား (၁၉.၀၇)ဧကသို့ ပြင်ဆင်သတ်မှတ်ခဲ့ပါသည်။ မူလ |

| | | |
|---|---|---|
| | | ဝယ်ယူစဉ်က ပါရှိခဲ့သော (၁၂.၀၇)ဧကသည် အင်းလေးကန်တောရိုင်းတိရစ္ဆာန် ဘေးမဲ့တော ဧရိယာအတွင်း ကျရောက်ပြီး ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ စီမံခန့်ခွဲ ပိုင်ခွင့်ရှိသော မြေဖြစ်ပြီး၊ ဝယ်ယူထားသည့် မြေ(၁၉.၅၀)ဧက နှင့် တစ်ဆက် တစ်စပ် တည်းရှိခြင်း၊ အင်းလေး ရေပြင်ပိုင်းကွင်း ဖြစ်ပြီးဒေသခံ ပြည်သူများ၏ မြေနှင့်ထိစပ်မှု မရှိခြင်းတို့ ကြောင့် နှစ်ရှည် မြေငှားရမ်းခြင်း စာချုပ်ဖြင့် ငှားရမ်း အသုံးပြု ခွင့်ပြုမည် ဖြစ်ပါသည်။<br>(ဃ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ နှစ်ရှည်မြေငှားစာချုပ်ဖြင့် ငှားရမ်းမည့်မြေ(၁၂.၀၇)ဧကအတွက်မြေပုံနှင့် အထောက်အထားကို သစ်တောဦးစီးဌာနမှ တင်ပြထားပါသည်။<br>(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြေငှားရမ်းကာလ နှစ်(၅၀) ငှားရမ်းခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် နိုင်ငံတော်သမ္မတရုံးမှ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ (၈) ရက်စွဲပါ စာအမှတ်၊ ၁၃(၁)/၇/သမ္မတရုံးဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားစာ တင်ပြထားပါသည်။<br>(စ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဒေါ်ကြူကြူသင်းပိုင် အမည်ပေါက် မြေ(၁၉.၅၀)ဧကပေါ်တွင် လုပ်ငန်းရှင် ဒေါ်ကြူကြူသင်း အမည်ဖြင့် ခွင့်ပြုလိုင်စင်အမှတ် ဟ-၀၃၈၁ ကို လုပ်ကိုင်ရာတွင် Cottage Room ၂၅ ခန်း၊ Superiors Room ၄၈ ခန်း၊ Suite Room ၇ ခန်း၊ Dinning Building နှင့် Reception Building တစ်လုံးစီ ရှိပါသည်။ ယခု ငှားရမ်းလုပ်ကိုင်မည့် အစိုးရပိုင်မြေနေရာ (၁၂.၀၇) ဧက ပေါ်တွင် လုပ်ကိုင်မည့် ဟိုတယ်လုပ်ငန်းမှာ Superiors Room ၁၀ ခန်း နှင့် Cottage Room ၂၅ ခန်း၊ ပါရှိပါကြောင်း တင်ပြထားပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - Hu Pin Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ ( Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၃၀၀၀.၀၀ သိန်း |
| လုပ်ငန်းသက်တမ်း | - နှစ် (၅၀) |
| အရင်းကြေကာလ | - (၅)နှစ် (၄)လ |
| IRR | - ၁၅.၉၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြ အပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သိန်း ) | Benefit (ကျပ်သိန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆ |
| ၃ | သွင်းကုန်ခွန်ကင်းလွတ်ခွင့် | - | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၅၀၇.၁၄ |
| ၅ | ဝင်ငွေခွန် | ၁၅၃.၁၁ | ၂၆၈.၉၆ |
| ၆ | မြေအသုံးချမှုပရီမီယံကြေး | - | ၀.၆၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၁၄.၀၄ |
| ၈ | CSR (၁ %) | - | ၈.၀၆ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၁၄၀ ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ် အကိုင် အခွင့် အလမ်းနှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူ ပြုစေပါ သည်။ |
| | စုစုပေါင်း | ကျပ် ၁၅၅.၂၇ သိန်း | ကျပ် ၇၉၉.၉၆ သိန်း |
| | Cost : Benefit | ၁:၅ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကေ- ၄/မ-၁၅၁၉/၂၀၁၆( ၃၄၈ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Hu Pin Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီး ခရိုင်၊ ညောင်ရွှေမြို့နယ်၊ခေါင်တိုင်ကျေးရွာတွင်နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး (၅၀) နှစ်၊ တစ်ကြိမ်လျှင်(၁၀) နှစ်စီဖြင့်(၂)ကြိမ် သက်တမ်းတိုးမည်ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၁၀)လနှင့် ပဏာမစူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလမှာ (၆)လဖြစ်ပါသည်။

၃။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန နှင့် Hu Pin Company Limited တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ချုပ်ဆို မည့် နှစ်ရှည်မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) မြေတည်နေရာသည် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် ကိုယ်စား၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံခန့်ခွဲပိုင်ခွင့် ရှိသော၊ သဘာဝနယ်မြေတစ်ခုဖြစ်သည့် အင်းလေးကန်တောရိုင်း တိရစ္ဆာန်ဘေးမဲ့တော ဟု သတ်မှတ်ထားသော မြေပုံတွင် အမှတ်အသားပြထားသည့် ဘောင်အတွင်းရှိ မြေ ဧရိယာ (၁၂.၀၇) ဧကဖြစ်ပါသည်။ **အပိုဒ်-၅(၁)**

(ခ) မြေငှားရမ်းကာလမှာစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ်(၅၀)နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် **နောက်ထပ်(၁၀) နှစ်(၂) ကြိမ် သက်တမ်းတိုးမြှင့်မည် ဖြစ်ပါသည်။** **အပိုဒ်-၅(၂)**

(ဂ) မြေအသုံးချမှုအတွက် ပရီမီယံကြေး ပေးသွင်းရာတွင် အငှားချထားသူ၏ နေပြည်တော် မြန်မာစီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာန အမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းသို့ ပေးသွင်းရမည်။ **အပိုဒ်-၉(၂)**

(ဃ) မြေငှားရမ်းခမှာ တစ်နှစ် တစ်ဧကလျှင် ကျပ် ၂၀၀,၀၀၀ နှုန်းဖြင့် စုစုပေါင်းမြေ ၁၂.၀၇ ဧက အတွက် ကျပ် ၂,၄၁၄,၀၀၀ ကို နှစ်ဦး နှစ်ဖက်စာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း (၆၀) အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ နောင်နှစ်များတွင်လည်း နှစ်စဉ် သက်တမ်း မစတင်မီ ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ အကယ်၍ သတ်မှတ် ကာလ ထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် ၅,၀၀၀ နှုန်း ပေးဆောင်ရမည်။ **အပိုဒ်-၁၀(၁)**

(င) မြေငှားရမ်းခနှုန်းထားများကို (၅)နှစ် တစ်ကြိမ် ပြန်လည်ပြင်ဆင် သတ်မှတ်ရန်နှင့် စာချုပ် ပြန်လည်ချုပ် ဆိုသည့်အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက်ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါ ငှားရမ်းခ၏ ၁၀% ထက် မပိုသောနှုန်းထားဖြင့် ပြန်လည်ပြင်ဆင် သတ်မှတ်သွားမည်ဖြစ်ပါ သည်။ **အပိုဒ်-၁၀(၂)**

(စ) Hu Pin Company Limited မှ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေ အဖြစ် တစ်နှစ် ငှားရမ်းခ ဖြစ်သော ကျပ် ၂,၄၁၄,၀၀၀ ကို ဘဏ်အာမခံထားရှိရမည်။ အဆိုပါ ဘဏ်အာမခံ ငွေကို စာချုပ်ချုပ် ဆိုပြီး ရက်ပေါင်း(၃၀) အတွင်းပေးသွင်းရမည်။ Hu Pin Company Limited သည် ငှားရမ်းကာလပြီးဆုံးသည့် အချိန်တွင် ဘဏ်အာမခံငွေကို ပြန်လည်ထုတ်ယူ နိုင်သည်။ **အပိုဒ်-၂၄(၁)**

၄။ လုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ စုစုပေါင်း ကျပ် ၃၀၀၀.၀၀ သန်း ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်းအတွက် လိုအပ်သော ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများကို ပြည်တွင်း၌ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီး မြှုပ်နှံမှု အခြေအနေမှာ အောက်ပါ အတိုင်းဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| **စုစုပေါင်းမတည်ငွေရင်း ပမာဏ** | | **ကျပ်** | **၃၀၀၀.၀၀** | **သန်း** |
| (က) | ငွေပမာဏ | ကျပ် | ၁၁၅၀.၀၀ | သန်း |
| (ခ) | ဟိုတယ်လုပ်ငန်းသုံးပစ္စည်း | ကျပ် | ၉၅၀.၀၀ | သန်း |
| (ဂ) | အဆောက်အဦ | ကျပ် | ၉၀၀.၀၀ | သန်း |

၅။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၁၄၀)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထား ပါ သည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်(၁၂၀,၀၀၀)ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း(၁)ဦး ၏ လစာမှာ ကျပ် (၁,၀၀၀,၀၀၀)ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ (၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ တစ်ဖက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အခန်း အရေအတွက် | ဝန်ဆောင်မှု ပေးမည့် အခန်း (Occupancy Rate %) | ဝန်ဆောင်ခ နှုန်း (တစ်ရက်/ US$) |
|---|---|---|---|---|
| (က) | Superior Type | ၁၀ | ၅၀ | ၆၀ |
| (ခ) | Cottage Type | ၂၅ | ၅၀ | ၁၂၀ |
| | စုစုပေါင်း | ၃၅ | | |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ= ၁၀၀၀ ကျပ်**

| စဉ် | အကြောင်းအရာ | ကျပ် (သန်း) | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၄၀.၁၆ | ၂.၃၉ | ၃၀၀၃.၂၃ | ၃၂၄၃.၃၉ |
| (ခ) | အသုံးစရိတ် | ၁၆၉၇.၀၄ | ၀.၉၆ | ၁၂၄၈.၁၉ | ၃၀၁၉.၇၉ |
| (ဂ) | အသားတင်အမြတ် | (၁၅၅၆.၈၈) | ၁.၄၃ | ၁၈၅၅.၀၄ | ၂၂၃.၆၀ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၇၄.၅၄ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၇.၀၀ သန်း၊ US$ ၀.၁၁ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅)နှစ် (၄)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန် ပေါ်နှုန်း (IRR) မှာ ၁၅.၉၆ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထား များတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း။

(၂) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း။

(၃) အဆိုပါ မြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု တို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်း။

(၄) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ (၇-၁-၂၀၁၆) ရက်စွဲ ပါစာအမှတ်၊ ၃(၂)၊၀၃(ခ)(၁)/(၀၇၁/၂၀၁၆)အရနှစ်ရှည် လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ဖြစ်ပါကြောင်း။

(၅) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ (၁၉-၂-၂၀၁၆) ရက်တွင် ကျင်းပပြုလုပ်သော ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်း အစည်းအဝေး

အမှတ်စဉ် (၃-၂/၂၀၁၆) ဆုံးဖြတ်ချက် အပိုဒ်၄(သ)အရ ရှမ်းပြည်နယ် အစိုးရအဖွဲ့ အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း။

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်မှုများကို လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် နည်းလမ်းများနှင့် အစီအမံများကို ထည့်သွင်း အသုံးပြု ဆောင်ရွက်ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး အကျိုးပြု လုပ်ငန်းများ (Corporate Social Responsibility -CSR) အတွက် အမြတ်ငွေ၏ (၁%)အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင် အထည် ဖော်ဆောင်ရွက်ရန်။

(၂) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြ ရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ရေးဆွဲတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ် ပစ္စည်း၊ စွန့်ပစ်အရည်/အစိုင်အခဲ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)များ ရေးဆွဲတင်ပြရန်နှင့် စီမံချက် ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

**(အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား Third party ဖြစ်သည့် Neotech Myanmar Co., Ltd. မှ စတင် ဆောင်ရွက်နေပြီဖြစ်ကြောင်း ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၀ ရက်နေ့ရက်စွဲဖြင့် ကုမ္ပဏီမှ တင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) Hu Pin Company Limited မှ အင်းလေးဒေသတွင် ဟူပင်ခေါင်တိုင် ဟိုတယ် အမည်ဖြင့် အခန်း(၈၀)ခန်းပါ ဟိုတယ်အား ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီး ဌာန၏ခွင့်ပြုလိုင်စင် အမှတ်ဟ-၀၃၈၁ ဖြင့်ဟိုတယ်လုပ်ငန်းများကို(၁၂-၁၂-၁၉၉၄) ရက်နေ့မှစ၍ ဆောင်ရွက်လျက်ရှိပါကြောင်း၊ Hu Pin Company Limited မှ ငှား ရမ်းမည့် အခန်းခနှုန်းထားများတွင် Superior Room (၁)ခန်း လျှင် အမေရိကန်

ဒေါ်လာ (၆၀)၊ Cottage Room (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၂၀) စသည်ဖြင့် နှုန်းများသတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့် နှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင်ရန် လိုအပ်ပါကြောင်း။

(၂) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့် အချိုးညီ ခန့်အပ်ပြီး ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာ သင်တန်းဆင်းလက်မှတ်များရရှိထားရန်လိုအပ်သဖြင့် စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှု စနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ပါကြောင်း။

**(ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားနှင့်အညီဆောင်ရွက်မည်ဖြစ်ကြောင်း ၂၀၁၆ ခုနှစ် မတ်လ ၇ ရက်နေ့ ရက်စွဲဖြင့် တင်ပြထားပါသည်။)**

၁၀။ ကျပ်ငွေ အထောက် အထားအဖြစ် ဒေါ်ကြူကြူသင်း နှင့် ဦးစိုးသူ အမည်တို့ဖြင့် KBZ Bank (Kyeemyindine Branch) တွင် (၁၆-၃-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၂၄,၈၆၃,၅၇၃. ၀၅ ၊ ဒေါ်ကြူကြူသင်းနှင့် ဒေါ်ချိုပြုံးရီ အမည် တို့ဖြင့် AYA Bank တွင် (၁၆-၃-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၀၉,၅၉၈,၈၂၅.၂၈ နှင့် ဒေါ်ကြူကြူသင်း၊ ဦးအောင်စန်းဝင်း အမည်တို့ဖြင့် MYANMA ECONOMIC BANK (Savings Bank Branch-1)တွင် (၁၆-၃-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ်၁၃၇,၇၉၈,၃၂၃ ရှိကြောင်း ဖော်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထားအဖြစ် Hu Pin Hotel အမည် ဖြင့် KBZ Bank (Kyauktadar-IBD Branch)တွင် (၁၃-၃-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် US$ ၁၆၈,၅၁၄.၄၅ ရှိ ကြောင်း ဖော်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန် ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ ၁ ရာခိုင်နှုန်း သုံးစွဲမည် ဖြစ်ပြီး ဘုန်းတော်ကြီးသင် ပညာရေးစနစ်များတွင် ပိုမိုကောင်းမွန်စွာ သင်ကြားနိုင်စေရန် အလှူငွေများ ပေးအပ်လှူဒါန်းခြင်း၊ ဒေသတွင်း မီးဘေးကင်းဝေးစေရန် မီးသတ်သင်တန်းများ အခမဲ့ပို့ချခြင်း၊ မီးသတ်ကိရိယာများတပ်ဆင်ခြင်း၊လုပ်ငန်းလုပ်ကိုင်ရာဒေသအနီးတဝိုက်တွင် ကျေးရွာမီးလင်းစေရန်ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် ဝန်ထမ်းများ၏ လစာကို အမှန်တကယ် ဖြစ်ပေါ်လျက်ရှိသော ကာလပေါက်ဈေးနှုန်းများဖြင့် တွက်ချက်ပေးခြင်း၊ ဝန်ထမ်းများ၏ လစာအပြင် ရက်မှန်ကြေး၊ ရက်ပိုကြေးများ ပေးအပ်ခြင်း၊ နှစ်သစ်ကူးကာလများတွင် ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်း၊ ဝန်ထမ်းများ၏ အလုပ်လုပ်ချိန်ကိုလည်း မြန်မာနိုင်ငံ အလုပ်သမား ညွှန်ကြားမှု ဦးစီး

ဌာနမှ တရားဝင် ပြဋ္ဌာန်းထားသည့် တစ်နေ့အလုပ်ချိန် ၈ နာရီ သတ်မှတ်ထားပေးခြင်း၊ ကျန်းမာရေး အတွက် ဆရာဝန်များ ၊ ကျန်းမာရေး စစ်ဆေးရေးမှူးများကို ခန့်အပ်၍ အချိန်မှန် စစ်ဆေးစေခြင်း၊ ဝန်ထမ်းများ သက်သာချောင်ချိရေးအတွက် နားနေခန်း၊ စားသောက်ခန်းများကိုလည်း ထားရှိပေးမည် ဖြစ်ပါကြောင်းတင်ပြထားပါသည်။

၁၄။ လုပ်ငန်း ဆောင်ရွက်ရာတွင် နိုင်ငံတော်အစိုးရမှ ဖြန့်ဖြူးသော လျှပ်စစ်ဓါတ်အားကို အဓိက ရယူ သုံးစွဲမည်ဖြစ်သော်လည်း လျှပ်စစ်ဓါတ်အား လုံလောက်မှုမရှိပါက ကိုယ်ပိုင်မီးစက် (၃၀၀ KVA) ဖြင့် အသုံးပြုသွားမည် ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ဇ၊ ည) အရ အခွန် အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်)သက်သာခွင့်များကိုကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြု နိုင်မည် ဖြစ်ပါမည်။

**စိစစ်တင်ပြချက်**

၁၆။ (က) အဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ ဟိုတယ်လုပ်ငန်း လုပ်ကိုင် ရန်အတွက် အဆောက်အဦ ပြီးစီးမှုမှာ ၇၅% ကျော် ပြီးစီး နေကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။

(ခ) ယခု တင်ပြလာသည့် လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီ သည် အင်းလေး ခေါင်တိုင် ဟူပင် ဟိုတယ် အမည်ဖြင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်လျက်ရှိပြီး ထပ်မံတိုးချဲ့မည့် လုပ်ငန်း အတွက် ခွင့်ပြုမိန့် တင်ပြလာခြင်း ဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ပိုင်ရှင်ဖြစ်သူ ဒေါ်ကြူကြူသင်းမှ ၂၀၁၁ ခုနှစ် ပုဂ္ဂလိကပိုင် ပြုလုပ်ရေး ကော်မရှင် (၁/၂၀၁၁) အစည်းအဝေးတွင် ဟိုတယ်နှင့် ခရီးသွား လာရေးလုပ်ငန်းဝန်ကြီးဌာနမှ ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ညောင်ရွှေမြို့နယ်၊ခေါင်တိုင် ကျေးရွာရှိ အင်းလေးခေါင်တိုင် ဟူပင်ဟိုတယ်၏ မြေ(၃၀.၉၂)ဧကကို ဝယ်ယူခဲ့ပြီး ဖြစ် သော်လည်း ပုဂ္ဂလိကပိုင်ပြုလုပ်ရေး ကော်မရှင်၏ (၄/၂၀၁၂) အစည်းအဝေးမှ ယင်း ဟိုတယ်၏ မြေအား (၁၉.၀၇)ဧကသို့ ပြင်ဆင်သတ်မှတ်ခဲ့ပါသည်။ မူလ ဝယ်ယူစဥ်က ပါရှိခဲ့သော (၁၂.၀၇)ဧကသည် အင်းလေးကန် တောရိုင်းတိရစ္ဆာန် ဘေးမဲ့တော ဧရိယာ အတွင်း ကျရောက်ပြီး ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ စီမံခန့်ခွဲ ပိုင်ခွင့်ရှိသော မြေဖြစ်ပြီး၊ ဝယ်ယူထားသည့် မြေ(၁၉.၅၀)ဧက နှင့် တစ်ဆက် တစ်စပ်တည်းရှိခြင်း၊ အင်းလေးရေပြင်ပိုင်းကွင်း ဖြစ်ပြီးဒေသခံ ပြည်သူ များ၏ မြေနှင့် ထိစပ်မှု မရှိခြင်းတို့ကြောင့် နှစ်ရှည်မြေငှားရမ်းခြင်း စာချုပ်ဖြင့် ငှားရမ်းအသုံးပြု ခွင့်ပြု မည် ဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ နှစ်ရှည်မြေငှားစာချုပ်ဖြင့် ငှားရမ်းမည့် မြေ(၁၂.၀၇)ဧက အတွက်မြေပုံနှင့်အထောက်အထားကို သစ်တောဦးစီးဌာနမှ တင်ပြထားပါသည်။

(င) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြေငှားရမ်းကာလ နှစ်(၅၀) ငှားရမ်းခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် နိုင်ငံတော် သမ္မတရုံးမှ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ (၈) ရက်စွဲပါ စာ အမှတ်၊ ၁၃(၁)/၇/သမ္မတရုံးဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ ဆောင်ရွက်သွားရန် အကြောင်းကြားစာ တင်ပြထားပါသည်။

(စ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဒေါ်ကြူကြူသင်းပိုင် အမည်ပေါက် မြေ(၁၉.၅၀)ဧက ပေါ်တွင် လုပ်ငန်းရှင် ဒေါ်ကြူကြူသင်း အမည်ဖြင့် ခွင့်ပြုလိုင်စင်အမှတ် ဟ-၀၃၈၁ ကို လုပ်ကိုင်ရာတွင် Cottage Room ၂၅ ခန်း၊ Superiors Room ၄၈ ခန်း၊ Suite Room ၇ ခန်း၊ Dinning Building နှင့် Reception Building တစ်လုံးစီ ရှိပါသည်။ ယခု ငှားရမ်းလုပ်ကိုင်မည့် အစိုးရပိုင်မြေနေရာ (၁၂.၀၇) ဧက ပေါ်တွင် လုပ်ကိုင်မည့် ဟိုတယ် လုပ်ငန်းမှာ Superiors Room ၁၀ ခန်း နှင့် Cottage Room ၂၅ ခန်း၊ ပါရှိပါကြောင်း တင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေ မြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ ဧကတွင် နိုင်ငံ တကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

ရုံးတံဆိပ်

စာအမှတ်၊ ၂၇၃၁ /၃-၂ /၂၀၁၆/ အစရ(ရှမ်း)
ရက် စွဲ ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း
ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။
(၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ (၂-၂-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၂၂/၂၀၁၆(၀၅၀)
(၂) ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ တောင်ကြီးမြို့၏ (၁၁-၂-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ၅/၇၆-၁(၁၄၇)/ဦး၆

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ်-၆၇၊ ခေါင်တိုင်ရွာကွင်းရှိ မြေ- ၁၂.၀၇ ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ဒေါ်ကြူကြူသင်းမှ အဆိုပြုတင်ပြလာခြင်းအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် ညှိနှိုင်းလာခြင်းအပေါ် ခရိုင်စီမံခန့်ခွဲမှုကော်မတီ၊ လားရှိုးမြို့မှ ရည်ညွှန်း(၂)ပါစာဖြင့် အောက်ပါအတိုင်း စိစစ်တင်ပြလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မြေနေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိကြောင်း၊

(ခ) မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါကြောင်း၊

(ဂ) အဆိုပါမြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊

(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ (၇-၁-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ၃(၂)၊ ၀၃(ခ)(၁)/(၀၇၁/၂၀၁၆)အရ နှစ်ရှည်လုပ်ငန်း ဆောင်ရွက်မည့် မြေနေရာဖြစ်ပါကြောင်း၊

၂။ အထက်ပါကိစ္စ နှင့်ပတ်သက်၍ (၁၉-၂-၂၀၁၆)ရက်တွင် ကျင်းပပြုလုပ်သော ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပြည်နယ်ဝန်ကြီးများ လုပ်ငန်းညှိနှိုင်း အစည်းအဝေး အမှတ်စဉ် (၃-၂/၂၀၁၆)ဆုံးဖြတ်ချက် အပိုဒ် ၄(သ)အရ ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပေးပို့ပါသည်။

စဝ်အောင်မြတ်
ပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

**နောက်ဆက်တွဲ (ခ)**

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝ၀၁/MIC(OSS)/ECD/ ဝ၁(၃၃၊၁၆)
ရက် စွဲ ၊၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Hu Pin Company Limited မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၅၁၉/၂၀၁၆(၀၇၅)

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ်-၆၇၊ ခေါင်တိုင်ရွာတွင်းရှိ မြေ ၁၂.၀၇ဧကတွင် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦး(၅၀)နှစ်နှင့်(၁၀)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁၈)လဖြစ်ကြောင်း၊ Cottage Type အဆောက်အဦ(၂၅)လုံး၊ Superious Type အဆောက်အဦ(၁၀-ခန်းပါ)(၁)လုံးနှင့် Restaurant အဆောက်အဦ(၁)လုံးတည်ဆောက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်မှု အစီအစဉ်များကိုထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေ (၁%)ကို လူမှုရေးအကျိုးပြုလုပ်ငန်း ( Corporate Social Responsibility-CSR )များတွင် ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ အမှိုက်များအားစနစ်တကျစွန့်ပစ်ခြင်း၊ ဟိုတယ်လုပ်ငန်းမှထွက်ရှိလာသောဘေးထွက်စွန့်ပစ်ပစ္စည်းများအားသတ်မှတ်ချက်နှင့်အညီစွန့်ပစ်ခြင်းနှင့်ရေဆိုးများအား Waste

Water Treatment Plant များဖြင့်ပြန်လည်သန့်စင်ပြီးမှသာလျှင်စွန့်ပစ်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Hu Pin Company Limited မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ အလုပ်သမားများမှ စွန့်ပစ်ပစ္စည်း/ အရည်/ အစိုင်အခဲများစွန့်ပစ်ခြင်းနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းမှုဖြစ်ပေါ်လာနိုင်ခြင်း၊ စီမံကိန်းလုပ်ငန်းများကြောင့် အင်းလေးကန်ဘေးမဲ့တောနှင့်ဇီဝရပ်ဝန်းနယ်မြေရှိ ငှက်များနှင့်ငါးမျိုးစိတ်များအပါအဝင် ဇီဝမျိုးစုံမျိုးကွဲများ၏ နေထိုင်သွားလာကျက်စားမှုကို ထိခိုက်နိုင်ခြင်း၊ ဇီဝမျိုးစုံမျိုးကွဲများ၏နေရင်းဒေသများပျက်စီးနိုင်ခြင်းနှင့် ဂေဟစနစ်များပျက်စီးနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Hu Pin Company Limited မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) စီမံကိန်းလုပ်ငန်းများဆောင်ရွက်ရာတွင်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုများကို လျော့နည်းနေစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းများနှင့်အစီအမံများကို ထည့်သွင်းအသုံးပြုဆောင်ရွက်ရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ (Corporate Social Responsibility-CSR ) အတွက်အမြတ်ငွေ၏ (၁%)ကို အသုံးပြုထည့်ဝင်သွားရန်အပါအဝင် ကတိတဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination – IEE ) ကိုဆောင်ရွက်ပြီး အစီရင်ခံစာရေးဆွဲတင်ပြရန်နှင့် ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment-EIA ) ကိုရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုများကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း စွန့်ပစ်အရည်/အစိုင်အခဲစီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan - EMP ) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ/ နည်းဥပဒေ/ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန**

ဝန်ကြီးရုံး



စာအမှတ်၊ ၁၈ - ဂ (အုပ်ချုပ်မှု)/နပတ/ ၀၄၆၀

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၇ ရက်။

NPG 589 18.2.16 သို့

ဥက္ကဋ္ဌ

M3-337 1/2

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရကာ-၄/မ-၁၅၁၉/၂၀၁၆ (၀၉၁)

၁။ Hu Pin Company Limitedမှ ရှမ်းပြည်နယ်တောင်ပိုင်း၊တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ခေါင်တိုင်ကျေးရွာအုပ်စု၊အကွက်အမှတ်၆၇-ခေါင်တိုင်ရွာကွင်းရှိမြေ(၁၂.၀၇)ဧကတွင်နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဒေါ်ကြူကြူသင်းမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှတဆင့် အဆိုပြုတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ လက်ရှိအခြေအနေတွင် မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်များအပါအဝင် နိုင်ငံခြားခရီးသည်များ တိုးတက်ဝင်ရောက်လာခြင်း၊ ယင်းခရီးသည်များအတွက် တောင်ကြီး၊ အင်းလေးဒေသတွင်လည်း နိုင်ငံတကာအဆင့်မီဟိုတယ်နှင့်အခန်းများလုံလောက်စွာရှိရန် လိုအပ်ခြင်းတို့ကြောင့် ယခုကဲ့သို့ပြည်တွင်းရင်းနှီးမြှုပ်နှံမှုဖြင့် Hu Pin Company Limited မှ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်မည်ဖြစ်သည့်အတွက် ခရီးသွားလုပ်ငန်းကိုအထောက်အကူပြုသောလုပ်ငန်းစီမံကိန်းတစ်ခုဖြစ်ပါသည်။

၃။ အဆိုပါမြေ (၁၂.၀၇) ဧကနှင့်ပတ်သက်၍ စိစစ်ရာတွင် ၂၀၁၁ ခုနှစ်၊ ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်၏ (၁/၂၀၁၁) ကြိမ်မြောက်အစည်းအဝေးတွင် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီး

ဌာနထံမှလုပ်ငန်းရှင်ဒေါ်ကြူကြူသင်းကရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာရှိ အင်းလေးခေါင်တိုင် ဟူပင်ဟိုတယ် (အင်းလေးရေပူစမ်းမပါ) မြေ (၃၀.၉၂) ဧကကို ဝယ်ယူခဲ့ပါသည်။ယင်းအနက်ယခုတင်ပြသည့် (၁၂.၇၇) ဧကမှာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏စီမံခန့်ခွဲမှုမြေဖြစ်ခြင်း၊ဝယ်ယူထားသည့်မြေနေရာ(၁၉.၇၅)ဧကနှင့် တစ်ဆက်တစ်စပ်တည်းတည်ရှိခြင်း၊ အင်းလေးရေပြင်ပိုင်းတွင်ဖြစ်ပြီး ဒေသခံပြည်သူများ၏ မြေနှင့်ထိစပ်မှုမရှိခြင်းတို့ကြောင့် နှစ်ရှည်မြေငှားရမ်း စာချုပ်ချုပ်ဆိုဆောင်ရွက်ခြင်းဖြစ်ကြောင်း ပတ်ဝန်းကျင်ထိန်းသိမ်းရေး သစ်တောရေးရာဝန်ကြီးဌာနမှ တင်ပြထားကြောင်းတွေ့ရှိရပါသည်။

၄။ အဆိုပါမြေနေရာသည် မြေပြင်တွင်သာမကရေပြင်တွင် တည်ဆောက်မည်ဖြစ်သဖြင့် စိစစ်ခွင့်ပြုရန်လိုအပ်ပါသည်။

၅။ Hu Pin Company Limited မှ အင်းလေးဒေသတွင် ဟူပင်ခေါင်တိုင် ဟိုတယ်အမည်ဖြင့် အခန်း(၈၀)ခန်းပါ ဟိုတယ်အား ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၏ ခွင့်ပြုလိုင်စင်အမှတ်ဟ-၀၃၈၁ဖြင့် ဟိုတယ်လုပ်ငန်းများကို (၁၂-၁၂-၁၉၉၄) ရက်နေ့မှစတင်၍ ဆောင်ရွက်လျှက်ရှိပါသည်။ Hu Pin Company Limited မှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် Superior Room (၁) ခန်း လျှင် အမေရိကန်ဒေါ်လာ (၆၀)၊ Cottage Room (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၂၀) စသည်ဖြင့်နှုန်းများသတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့်နှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်းလျော်ကန်သင့်တင့်ရန်လိုအပ်ပါသည်။

၆။ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီ ခန့်အပ်ပြီး ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောက်မှုလုပ်ငန်းဆိုင်ရာသင်တန်းဆင်းလက်မှတ်များ ရရှိထားရန်လိုအပ်သဖြင့် စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်ပြီးရေဆိုး၊ အမှိုက်နှင့်အညစ်အကြေးစွန့်ပစ်မှုစနစ်များအားစနစ်တကျစီမံဆောင်ရွက်ထားရန်လိုအပ်ကြောင်းတင်ပြအပ်ပါသည်။

(ဦးဌေးအောင်)

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ၊ မျှော

ဒဒ၆-၄၄၄
၂၃/၂

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၉ ရက်

အကြောင်းအရာ။ **ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန ၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊တောင်ကြီးခရိုင်၊ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနသို့ (၂၀-၁-၂၀၁၆)ရက်စွဲပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်။ အလံ "၁"

၂။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် အောက်ပါအတိုင်းစိစစ်၍ သဘောထားပြန်ကြားလာပါသည်- အလံ "၂"

(က) လက်ရှိအခြေအနေတွင် မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည်များ အပါအဝင်နိုင်ငံခြား ခရီးသည်များ တိုးတက်ဝင်ရောက်လာခြင်း၊ ယင်းခရီးသည်များအတွက် တောင်ကြီး၊ အင်းလေးဒေသတွင်လည်း နိုင်ငံတကာအဆင့်မီ ဟိုတယ်နှင့် အခန်းများလုံလောက်စွာရှိရန် လိုအပ်ခြင်းတို့ကြောင့်ယခုကဲ့သို့ပြည်တွင်း ရင်းနှီးမြှုပ်နှံမှုဖြင့် Hu Pin Company Limited မှ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်မည်ဖြစ်သည့် အတွက် ခရီးသွား လုပ်ငန်းကို အထောက်အကူပြုသောလုပ်ငန်း စီမံကိန်းတစ်ခုဖြစ်ပါကြောင်း။

(ခ) အဆိုပါ မြေ(၁၂.၀၇)ဧက နှင့် ပတ်သက်၍ စိစစ်ရာတွင် ၂၀၁၁ ခုနှစ် ၊ ပုဂ္ဂလိကပိုင်ပြုလုပ်ရေး ကော်မရှင်၏(၁/၂၀၁၁)ကြိမ်မြောက် အစည်းအဝေးတွင် ဟိုတယ်နှင့် ခရီး သွားလာရေး လုပ်ငန်းဝန်ကြီးဌာနထံမှ လုပ်ငန်းရှင် ဒေါ်ကြူကြူသင်း က ရှမ်းပြည်နယ်၊တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာရှိ အင်းလေးခေါင်တိုင်ဟူပင်ဟိုတယ်(အင်းလေးရေပူစမ်းမပါ)မြေ(၃၀.၉၂)ဧကကို ဝယ်ယူခဲ့ပါကြောင်း၊ ယင်းအနက် ယခု တင်ပြသည့် မြေ(၁၂.၀၇)ဧကမှာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ စီမံခန့်ခွဲမှု မြေဖြစ်ခြင်း၊ ဝယ်ယူထားသည့် မြေနေရာ(၁၉.၀၅)ဧကနှင့် တစ်ဆက်တစ်စပ်တည်း တည်ရှိခြင်း၊ အင်းလေး ရေပြင်ပိုင်းတွင်ဖြစ်ပြီး ဒေသခံပြည်သူများ၏ မြေနှင့်ထိစပ်မှုမရှိခြင်းတို့ကြောင့်နှစ်ရှည်ငှားရမ်းစာချုပ်ချုပ်ဆိုဆောင်ရွက်ခြင်းဖြစ်ကြောင်းပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ တင်ပြထားကြောင်း တွေ့ရှိရပါကြောင်း။

(ဂ) အဆိုပါ မြေနေရာသည် မြေပြင်တွင်သာမက ရေပြင်တွင် တည်ဆောက် မည်ဖြစ်သဖြင့် စိစစ်ခွင့်ပြုရန်လိုအပ်ပါကြောင်း။

(ဃ) Hu Pin Company Limited မှ အင်းလေးဒေသတွင် ဟူပင်ခေါင်တိုင် ဟိုတယ်အမည်ဖြင့် အခန်း(၈၀)ခန်းပါ ဟိုတယ်အားဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီး

ဌာန၏ ခွင့်ပြုလိုင်စင် အမှတ်ဟ-၀၃၈၁ ဖြင့် ဟိုတယ်လုပ်ငန်းများကို (၁၂-၁၂-၁၉၉၄) ရက်နေ့မှစ၍ ဆောင်ရွက်လျက်ရှိပါကြောင်း၊ Hu Pin Company Limited မှ ၄င်း ရမ်းမည့် အခန်းခနှုန်းထားများတွင် Superior Room (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၆၀)၊ Cottage Room (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၂၀)စသည်ဖြင့် နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် ၄င်းရမ်းမည့် နှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင်ရန် လိုအပ်ပါ ကြောင်း။

(င) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့် အချိုးညီ ခန့်အပ်ပြီး ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာ သင်တန်းဆင်း လက်မှတ်များရရှိထားရန် လိုအပ်သဖြင့် စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေ ဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှု စနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ပါကြောင်း။

၃။ သို့ဖြစ်ပါ၍ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထား နှင့် အညီ ပြင်ဆင်တင်ပြရန် သက်ဆိုင်ရာဌာနနှင့် ကုမ္ပဏီသို့ အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | (signature) ၁၉/၂/၁၆ | (signature) ၂၀/၂/၁၆ | (signature) |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ တင်ပြ

ညွှန်ကြားရေးမှူး

၅။ စာချောတွင် လက်မှတ် ရေးထိုးထား နိုင်ပါရန် တင်ပြအပ်ပါသည်

(signature)
၂၂၊၂
(မြင့်)

ဦးသန်းထိုက်

၆. [illegible]

(signature)

[illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၁၉ / ၂၀၁၆( ၈၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

အကြောင်းအရာ ။ **ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၀-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက- ၄/မ-၁၅၁၉ / ၂၀၁၆ (၀၉၁)

(၂) ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ (၁၇-၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)/နပတ/၀၄၆၀

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ဧက တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနသို့ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်။

၂။ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် ရည်ညွှန်း(၂) ပါစာဖြင့် အောက်ပါအတိုင်းစိစစ်၍ သဘောထား ပြန်ကြားလာပါသည်-

(က) Hu Pin Company Limited မှ အင်းလေးဒေသတွင် ဟူပင်ခေါင်တိုင် ဟိုတယ် အမည်ဖြင့် အခန်း(၈၀)ခန်းပါ ဟိုတယ်အား ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန၏ ခွင့်ပြုလိုင်စင် အမှတ်ဟ-၀၃၈၁ ဖြင့် ဟိုတယ်လုပ်ငန်းများကို (၁၂-၁၂-၁၉၉၄) ရက်နေ့မှစ၍ ဆောင်ရွက်လျက်ရှိပါကြောင်း၊ Hu Pin Company Limited မှ ငှားရမ်းမည့် အခန်းခနှုန်းထားများတွင် Superior Room (၁)ခန်း လျှင် အမေရိကန် ဒေါ်လာ (၆၀)၊ Cottage Room (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၂၀)စသည်ဖြင့် နှုန်းများသတ်မှတ်ဖော်ပြထားသဖြင့် ငှားရမ်းမည့် နှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင်ရန် လိုအပ်ပါကြောင်း။

(ခ) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့် အချိုးညီ ခန့်အပ်ပြီး ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာ သင်တန်းဆင်း လက်မှတ်များ ရရှိထားရန် လိုအပ်သဖြင့် စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှု စနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ပါကြောင်း။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ဟိုတယ်နှင့် ခရီးသွား လာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည့် အစီအစဉ် ကို ကော်မရှင်သို့ ပြန်လည် တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Hu Pin Company Limited

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ/ မျှောစာတွဲ

ပူးတွဲ-၃

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် အစိုးရအဖွဲ့အစည်းပိုင်မြေတွင် ငှားရမ်းဆောင်ရွက်မည့် မြေဆိုင်ရာ အချက်အလက်များ

| စဉ် | PAT အကြိမ်/ ရက်စွဲ | ကုမ္ပဏီအမည် | လုပ်ငန်းအမျိုးအစား/ တည်နေရာ | စုစုပေါင်းမြေ အကျယ်အဝန်း | အဆောက်အဦ အကျယ်အဝန်း | နှစ်စဉ် ငှားရမ်းခ/နှုန်း (Sqm/US$) | ငှားရမ်း မည့်နှစ် | မြေဂရန်ခွင့်ပြုမှု | | | သဘောထားများ |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | | | | | အမည် | ခွင့်ပြု ရက်စွဲ | ခွင့်ပြု ကာလ (နှစ်) | |
| ၁ | ၄/၂၀၁၆ (၂၅-၁-၂၀၁၆) | HU Pin Company Limited | နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေ မြို့နယ်၊ ခေါင်တိုင်ကျေးရွာ အုပ်စု၊ အကွက်အမှတ် ၆၇- ခေါင်တိုင်ရွာကွင်း ရှိ | မြေဧရိယာ ၁၂.၀၇ဧက | - | ကျပ် ၆၀၃,၅၀၀ | (၅၀) နှစ် (၁၀)နှစ် (၂)ကြိမ် | [illegible] | ၁၄-၁၂-၂၀၀၀ | - | -ရှမ်းပြည်နယ်အစိုးရ အဖွဲ့<br>-ပတ်ဝန်းကျင်ထိန်းသိမ်း ရေးနှင့်သစ်တောရေးရာ ဝန်ကြီး ဌာန<br>-ဟိုတယ်နှင့်ခရီးသွားလာ ရေး လုပ်ငန်းဝန်ကြီးဌာန |

မှတ်ချက်။ ။ ကုမ္ပဏီ မှ တင်ပြထားသည့် အမှန်တကယ် လုပ်ငန်းဆောင်ရွက်မည့် မြေ(၁၂.၀၇)ဧကအတွက် အထောက်အထားမှာ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောဦးစီး ဌာနပိုင် ဖြစ်ကြောင်း ဖော်ပြထားပါသည်။ မြေ(၁၂.၀၇)ဧက အတွက် အထောက်အထားအတွက် ပြည်ထောင်စု ဝန်ကြီးရုံး၊ နိုင်ငံတော် သမ္မတရုံးမှ ၈-၁၂-၂၀၁၅ ရက်စွဲပါစာ ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားစာ ရရှိပြီးဖြစ်ပါသည်။

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၄ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြ ရန်ကိစ္စ**

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇- ခေါင်တိုင်ရွာ ကွင်းရှိ မြေ ၁၂.၀၇ ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ပါသည်။ အလံ "၁"

၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်- အလံ "၂"

(က) စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများကို လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် နည်းလမ်းများနှင့် အစီအမံများကို ထည့်သွင်းအသုံးပြုဆောင်ရွက်ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး အကျိုးပြုလုပ်ငန်းများ(Corporate Social Responsibility -CSR)အတွက် အမြတ်ငွေ၏ (၁%)အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာရေးဆွဲတင်ပြရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်/အစိုင်အခဲ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည် တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)များရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ/ နည်းဥပဒေ/ လုပ်ထုံးလုပ်နည်းနှင့် အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်။

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

၃။ သို့ဖြစ်ပါ၍ Hu Pin Company Limited မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားနှင့်အညီ ရေးဆွဲပြုစု၍ တင်ပြရန် အကြောင်းကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | 9/2/16 | 9/2/16 | 9/2 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားနှင့် [illegible]
[illegible]
ပါသည်။

9/2/16
([illegible])

ညွှန်ကြားရေးမှူး
[illegible]

ဒု-ညွှန်ကြားရေးမှူးချုပ်
၄။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ~~၀၁-၆၅၈၁၃၇~~ | စာအမှတ်၊ ရက- ၄/မ-၁၅၁၉/၂၀၁၆( ၁၈၉ - ၁ )

☎ ၀၁-၆၅၈၁၂၉ | ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၉ ရက်

အကြောင်းအရာ ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၉-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက- ၄/မ-၁၅၁၉ / ၂၀၁၆ (၀၇၅)

(၂) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏(၈-၂-၂၀၁၆) ရက်စွဲပါ စာအမှတ် ၀၀၁/MIC(OSS)/ECD/၀၁(၃၃/၁၆)

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း ရှိ မြေ ၁၂.၀၇ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) စီမံကိန်းလုပ်ငန်းများဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများကို လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် နည်းလမ်းများနှင့် အစီအမံများကို ထည့်သွင်းအသုံးပြုဆောင်ရွက်ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး အကျိုးပြုလုပ်ငန်းများ (Corporate Social Responsibility -CSR) အတွက် အမြတ်ငွေ၏ (၁%)အား အသုံးပြုရန် အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင် အထည် ဖော်ဆောင်ရွက်ရန်။

(ခ) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကို ရေးဆွဲတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်/အစိုင်အခဲ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)များ ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့် အစီအစဉ်များ အား ကော်မရှင်သို့ ပြန်လည်တင်ပြပေးရန် အကြောင်းကြားပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(ဒေါက်တာမင်းဇော်ဦး၊ ဒုတိယညွှန်ကြားရေးမှူး)

Hu Pin Company Limited

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ရုံးလက်ခံ/ မျှောစာတွဲ

DDG 15
1/2/16

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁ ရက်

M3-152
2/2

အကြောင်းအရာ။ **အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၆)အစည်းအဝေး ဆုံးဖြတ်ချက်အား အကြောင်းကြားခြင်း ကိစ္စ**

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊တောင်ကြီးခရိုင်၊ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း ရှိ မြေ ၁၂.၀၇ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကို ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၅ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေး အဖွဲ့၏ (၄/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အလံ "၁"

၂။ အစည်းအဝေး ဆုံးဖြတ်ချက်အား သက်ဆိုင်ရာဌာနနှင့် ကုမ္ပဏီတို့ထံ အကြောင်းကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။ အလံ "၂"

| | **ရေးသွင်းသူ** | **စိစစ်သူ** | **အတည်ပြုသူ** |
|---|---|---|---|
| လက်မှတ် | (signature) 1/2/16 | (signature) 1/2/16 | (signature) |
| အမည် | (စိုးသိဟ) | (ဝင်းမို့မို့ခအေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ PAT (4/2016) အစည်းအဝေး ဆုံးဖြတ်ချက်အား သက်ဆိုင်ရာဌာနနှင့် ကုမ္ပဏီ အား အကြောင်းကြားမည့်စာ အား တင်ပြ အပ်ပါသည်။

(signature) 1.2.16
(ဒေါ်...)

ညွှန်ကြားရေးမှူး

၄။ ...

ဒု-ညွှန်ကြားရေးမှူးချုပ်

၅။

(signature)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အဆိုပြုချက် စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရကာ- ၄ /မ-၁၅၁၉/၂၀၁၆( ၀၃၉ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ဆေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏(၇-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၃(၂)/၀၃(ခ)(၁)/(၀၇၁/၂၀၁၆)

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း ရှိ မြေ ၁၂.၀၇ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှတစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက်တင်ပြခြင်းကို အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၆)(၂၅-၁-၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်း အစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေ(၁၂.၀၇)ဧက အတွက် သစ်တောဦးစီးဌာန မှ မြေနှင့်ပတ်သက်သည့် အထောက်အထား တင်ပြရန်။

(ခ) နှစ်အလိုက် ဝန်ထမ်းခန့်ထားမည့် စာရင်းတင်ပြရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါ ဆုံးဖြတ်ချက်အား ပြင်ဆင်ပြီးပါက ပြန်လည်တင်ပြပေးပါရန် နှင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအသစ်အဖြစ် ဆောင်ရွက်ရန် လက်ခံနိုင်သည့် လုပ်ငန်းဖြစ်ကြောင်း အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

Hu Pin Company Limited

ရုံးလက်ခံ/ မျှောစာတွဲ

**ကန့်သတ်**

**ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

**အဆိုပြုချက် စိစစ်ရေးအဖွဲ့**

**၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်နေ့ နံနက် ၉း၀၀ နာရီတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း**

**အစည်းအဝေးတက်ရောက်သည့် အဖွဲ့ဝင်များ/ ကိုယ်စားတက်ရောက်သူများ**

ဦးမြင့်နိုင် — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပြည်တွင်းပြည်ပဆက်ဆံရေးနှင့်သတင်းပြန်ကြားရေးဌာနခွဲ
ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးကြည်ဦး — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးထွန်းသန်း — အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးမောင်ကို — ကိုယ်စား
လက်ထောက်အထွေထွေမန်နေဂျာ(အင်ဂျင်နီယာ)
ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးသိန်းဆွေ — ကိုယ်စား
ဒုတိယညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဒေါ်သိန်းနုခိုင် — ကိုယ်စား
ဒုတိယညွှန်ကြားရေးမှူး
ကုန်သွယ်ရေးဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

အထောက်အထားသာ ပူးတွဲတင်ပြမည်ဖြစ်ကြောင်း၊ ၂၀၁၄ခုနှစ်တွင်ချုပ်ဆိုခဲ့သည့် ပြင်ဆင်ချက်သဘော တူစာချုပ်မူရင်း၌ ရက်စွဲပါရှိပြီး စာချုပ်မူရင်းမှာ စိုက်ပျိုးရေးဦးစီးဌာနတွင် ရှိပါကြောင်း၊ အဆိုပါစာချုပ် ချုပ်ဆိုခဲ့သည့်နေ့မှာ ၂၀၁၄ ခုနှစ် ဇန်နဝါရီလ ၃၁ ရက်နေ့ဖြစ်ပါကြောင်း၊ ယခုကုမ္ပဏီတွင် စိုက်ပျိုး ရေးဦးစီးဌာနမှ ဝန်ထမ်းများ မပါဝင်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ စိုက်ပျိုးထုတ်လုပ်ခြင်းကိုသာ လုပ်ကိုင်မည်ဖြစ်ပြီး ကြိတ်ခွဲမှုမပါဝင်ကြောင်း၊ ကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်းကို ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြင့် မြေငှားရမ်းလုပ်ကိုင်လိုသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြခြင်းဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြိတ်အိန္ဒြေ ကုမ္ပဏီများအုပ်စုလီမိတက်မှ စပါးသီးနှံနှင့်ပဲအမျိုးမျိုးကို အဆင့်မြင့်စက်မှုလယ်ယာစနစ်ဖြင့် စိုက်ပျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့်မြေကိစ္စနှင့်ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနမှ ပြည်ထောင်စုအစိုးရအဖွဲ့သို့ ခွင့်ပြုချက်တောင်းခံရန်။

(ခ) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသည့် မြေငှားစာချုပ်(မူကြမ်း) တင်ပြရန်။

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။

၁၁။ **Hu Pin Co., Ltd. မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်မြစန္ဒာက အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူ ဦးဝေလင်းက ရှမ်းပြည်နယ်(တောင်ပိုင်း)၊ ညောင်ရွှေမြို့နယ်၊ အင်းလေး ခေါင်တိုင်ကျေးရွာအုပ်စုရှိ မြေဧရိယာ (၁၂.၀၇) ဧကပေါ်တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ မူလက မြေဧရိယာ (၃၀.၉၂)ဧကကို ဝယ်ယူခွင့်ရရှိခဲ့ပြီး တိုင်းတာ သည့်အခါ(၁၉.၀၇)ဧကပြင်ဆင်သတ်မှတ်ခဲ့ကာ (၁၂.၀၇)ဧကမှာတောရိုင်းတိရိစ္ဆာန်ဘေးမဲ့တောဧရိယာ ထဲတွင်ကျရောက်နေကြောင်း၊ မိမိတို့လုပ်ငန်းဆောင်ရွက်မည့်မြေကို သစ်တောဦးစီးဌာနမှ ကနဦး နှစ် (၅၀)နှင့် သက်တမ်းတိုး(၁၀)နှစ် (၂)ကြိမ်ဖြင့် ငှားရမ်းလုပ်ကိုင်မည်ဖြစ်ကြောင်း၊ ယခုဟိုတယ်တိုးချဲ့ ဆောက်လုပ်ရန်နှင့် ရင်းနှီးမြှုပ်နှံမှုတိုးမြှင့်ပြီး နှစ်ရှည်လုပ်ငန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်တင်ပြခြင်းဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်သန်း ၃၀၀၀ ဖြစ်ပြီး လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိခဲ့ပါက သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းနှင့်အညီ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ဆောက်လုပ်မည့်ဟိုတယ်တွင် Superior Typ(၁၀)ခန်းနှင့် Cottage Type (၂၅)ခန်းပါဝင်ကြောင်း၊ မူလအဆောက်အဦတစ်လုံးရှိပြီး ကျန်အဆောက်အဦများကို အသစ် ဆောက်လုပ်မည်ဖြစ်ကြောင်း၊ ယခုကုမ္ပဏီအနေဖြင့် အင်းလေးဒေသတွင် ဟိုတယ်လုပ်ငန်းဆောင်ရွက်

နေသည်မှာ နှစ်(၂၀)ခန့်ရှိပြီဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ ပြည်တွင်းဝန်ထမ်း (၁၄၀)ဦးခန့်ထားမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်မြစန္ဒာက ကုမ္ပဏီအနေဖြင့် နှစ်ပေါင်းများစွာ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခဲ့သည်ဖြစ်၍ ယခုဟိုတယ်လုပ်ငန်း ဆောင်ရွက်လိုခြင်းနှင့်ပတ်သက်ပြီး ကန့်ကွက်ရန်မရှိသော်လည်း သက်ဆိုင်ရာဆက်စပ်ဌာနများ၏ စည်းမျဉ်းစည်းကမ်းများအတိုင်း ဆောင်ရွက်သွားရမည်ဟု အကြံပြုပါကြောင်း၊ ဟိုတယ်နှင့်ခရီးသွား ညွှန်ကြားမှုဦးစီးဌာနမှ တင်ပြထားသည်ကို ကုမ္ပဏီမှ သိရှိဆောင်ရွက်နိုင်ရန် ပြောကြားလိုကြောင်း၊ ကုမ္ပဏီသည် သစ်တောဦးစီးဌာနပိုင်မြေကို ကနဦး နှစ်(၅၀)နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်ဖြင့် ငှားရမ်းပြီးလုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ မြေငှားစာချုပ်(မူကြမ်း)တွင် ၂၀၁၅ ခုနှစ်ဖြစ်နေသည်ကို ၂၀၁၆ ခုနှစ်ဖြင့်ပြင်ဆင်ပေးရန်လိုကြောင်း၊ သစ်တောဦးစီးဌာနသို့ မြေအထောက်အထားနှင့်ပတ်သက်ပြီး တင်ပြပေးရန် အကြောင်းကြားစာထုတ်မည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း လက်ထောက်အထွေထွေမန်နေဂျာ (အင်ဂျင်နီယာ) ဦးမောင်ကိုက လုပ်ငန်းဆောင်ရွက်မည့်နေရာတွင် လျှပ်စစ်ဓာတ်အား ရရှိနေခြင်းရှိ-မရှိ နှင့် Transformer ထပ်မံတိုးချဲ့တပ်ဆင်ရန်ရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ညွှန်ကြားရေးမှူး ဦးထွန်းသန်းက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်ရရှိပြီး မြေငှားစာချုပ် အတည်ချုပ်ဆိုပါက စာချုပ်ပေါ်တွင် ထိုက်သင့်သော တံဆိပ်ခေါင်းခွန် ပေးဆောင်ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးမျိုးတင့်အောင်က လုပ်ငန်းဆောင်ရွက်ရန် ဝန်ထမ်းမည်ကဲ့သို့ ရယူခန့်ထားမည်ကို သိလိုကြောင်း၊ အဆိုပြုချက်တွင် ဝန်ထမ်းခန့်ထားခြင်းအား တစ်နှစ်စာသာ ဖော်ပြထားသဖြင့် နှစ်အလိုက်ဖော်ပြပေးရန် နှင့် ဝန်ထမ်းတိုးမြှင့်ခန့်ထားရန်ရှိ-မရှိ သိလိုကြောင်း၊ အဆိုပြုချက်ပါ ပုံစံ-၁၏အမှတ်စဉ်-၁၁တွင် အမြင့်ဆုံးခန့်ထားမည့် ဝန်ထမ်းဦးရေကို ဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဦးခင်မောင်တည်က ကုမ္ပဏီသည် အခန်း(၃၅)ခန်းပါဝင်သော ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်၍ အခန်း(၈၀)မပြည့်သောကြောင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan -EMP) အစီရင်ခံစာ ရေးဆွဲတင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ကုမ္ပဏီမှ လက်ရှိလုပ်ကိုင်နေသောလုပ်ငန်းမှာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်နှင့်လုပ်ကိုင်နေသောလုပ်ငန်းဟုတ်-မဟုတ် နှင့် မည်သည့်ကုမ္ပဏီအမည်နှင့် လုပ်ကိုင်နေသည်ကို သိလိုကြောင်း၊ လက်ရှိလုပ်ငန်းအတွက် အခွန်ပေးဆောင်ထားပြီးခြင်းရှိ-မရှိ သိလိုကြောင်း၊ ယခုလုပ်ကိုင်မည့် မြေဧရိယာ (၁၂.၀၇)ဧကကို သစ်တောဦးစီးဌာနမှ ငှားရမ်းပြီးလုပ်ကိုင်မည်ဖြစ်၍ အဆိုပါဌာနသို့ မြေနှင့်ပတ်သက်သည့် အထောက်အထား တောင်းမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ ထွက်ရှိလာသော ရေဆိုးများအား မည်ကဲ့သို့စွန့်ထုတ်ရန် စီစဉ်ထားသည်ကို သိလိုကြောင်း၊ ရေချိုမည်ကဲ့သို့ ရရှိမည်ကိုသိလိုပြီး CSR အတွက် မည်ကဲ့သို့ လုပ်ကိုင်ဆောင်ရွက်ပေးမည်ကိုသိလိုကြောင်း၊ Organic Farming လုပ်ကိုင်

ခြင်းမှာလည်း CSR ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် ဝန်ထမ်းများမှာ ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနတွင် သင်တန်းတက်ရောက်ပြီးသော ဝန်ထမ်းများဖြစ်ရန်လိုကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေနှင့် ယခုလုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ (၁၂.၀၇)ဧကအတွက်ကို သာခွင့်ပြုပေးမည်ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် တည်ဆောက်ရေးကာလအား (၁၈)လ တင်ပြထား သဖြင့် အဆောက်အဦဆောက်လုပ်နေသည်မှာ ၇၅ % ပြီးစီးနေပြီဟု တင်ပြလာသဖြင့် တည်ဆောက်ရေး ကာလအား ပြန်လည်စိစစ်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးချုပ် ဦးဆန်းမြင့်က ကုမ္ပဏီသည် ယခုအဆိုပြုလုပ်ငန်းလုပ်ကိုင်ရန်အတွက် မြေဧရိယာ(၁၂.၀၇)ဧကကို သစ်တောဦးစီးဌာန ထံမှငှားရမ်းမည်ဖြစ်ကြောင်း၊ မြေစာရင်းပုံစံ-၁၀၆တွင် အဆိုပါဌာနအမည်ပေါက် ဖော်ပြထားသည်ကို မတွေ့ရကြောင်း၊ သစ်တောဦးစီးဌာနပိုင်မြေဖြစ်ကြောင်း အထောက်အထား တင်ပြပေးရန်လိုကြောင်း၊ အဆိုပြုချက်တွင် မြေငှားရမ်းကာလသာတင်ပြထားပြီး လုပ်ငန်းသက်တမ်း တင်ပြထားခြင်းမရှိကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူ ဦးဝေလင်းက လုပ်ငန်းဆောင်ရွက်မည့်နေရာတွင် လျှပ်စစ်ဓာတ်အားရရှိ နေပြီဖြစ်၍ ထရန်စဖော်မာ ထပ်မံတိုးချဲ့တပ်ဆင်ရန်မလိုဘဲ ဓာတ်အားသုံးစွဲမှု လိုအပ်ခဲ့ပါက ကိုယ်ပိုင် မီးစက်မှရယူအသုံးပြုမည်ဖြစ်ကြောင်း၊ အဆောက်အဦအသစ်ဆောက်လုပ်မည်ဖြစ်၍ ဝန်ထမ်း(၁၀၀)ဦး ကျော်ခန့်ထားမည်ဖြစ်ပြီး ညောင်ရွှေမြို့ရှိဟိုတယ်မှ ခေါ်ယူခန့်ထားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းတိုးမြှင့် ခန့်ထားရန်ရှိသဖြင့် အဆိုပြုချက်တွင် နှစ်အလိုက်ဝန်ထမ်းအင်အားစာရင်း ဖော်ပြပေးမည်ဖြစ်ကြောင်း၊ ဆောက်လုပ်မည့်ဟိုတယ်ရှိ အခန်းတစ်ခန်းတွင် ကုတင်(၂)လုံး ပါရှိမည်ဖြစ်ကြောင်း၊ မိမိတို့ဟိုတယ်မှာ ကမ်းစပ်တွင်ရှိပြီး ရှေ့တွင် အင်းလေးရေပြင်ရှိပါကြောင်း၊ မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)တွင် ခုနှစ်မှား နေသည်ကို အမှန်နှင့်ပြင်ဆင်ပေးမည်ဖြစ်ကြောင်း၊ လက်ရှိဟိုတယ်လုပ်ငန်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင် ခွင့်ပြုမိန့်နှင့်မဟုတ်ဘဲ လူပုဂ္ဂိုလ်အမည်နှင့် လုပ်ကိုင်ဆောင်ရွက်နေပြီး သတ်မှတ်ထား သောအခွန် ပေးဆောင်ထားပြီးဖြစ်ကြောင်း၊ မိမိတို့သည် ညောင်ရွှေမြို့တွင် ဟူပင်စားသောက်ဆိုင်ဖွင့် လှစ်ထားပါကြောင်း၊ ယခုလုပ်ငန်းဆောင်ရွက်မည့် မြေနှင့်ပတ်သက်သော အထောက်အထားအား သစ်တောဦးစီးဌာနမှ မပေးပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာသောရေဆိုးမျာကို ထိုင်း နိုင်ငံထုတ် ရေဆိုးသန့်စင်စက်များတပ်ဆင်ပြီး Treatment လုပ်ပြီးမှ စွန့်ထုတ်မည်ဖြစ်ကြောင်း၊ အဆို ပါ လုပ်ငန်းဆောင်ရွက်မည့်နေရာတွင် ရေပေးသည့်နေရာရှိသဖြင့် ရေချိုရရှိပါကြောင်း၊ CSR အနေဖြင့် ပတ်ဝန်းကျင်ကျေးရွာများကို ရေထောက်ပံ့ပေးခြင်း၊ ကျောင်းဆောက်လုပ်လှူဒါန်းခြင်း၊ အလုပ်အကိုင် ရရှိအောင်ခန့်ထားခြင်းတို့ ဆောင်ရွက်ပါကြောင်း၊ ဟိုတယ်တွင်အသုံးပြုရန်အတွက် Organic Farm- ing လုပ်ကိုင်ထားပြီး သရက်ပင်၊ သဘော်ပင် စသည်တို့ကို စိုက်ပျိုးထားပါကြောင်း၊ ဟိုတယ်ဆောက် လုပ်နေသည်မှာ ၇၅% ပြီးစီးနေပြီဖြစ်၍ တည်ဆောက်ရေးကာလမှာ (၁၈)လမလိုတော့ပါသဖြင့် ပြင်ဆင် တင်ပြပေးမည်ဖြစ်ကြောင်း၊ သစ်တောဦးစီးဌာနမှ မြေငှားရမ်းပေးသည့်ကာလအတိုင်း လုပ်ငန်းသက် တမ်းကို ကနဦး (၅၀)နှစ်နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်ဖြင့် လုပ်ကိုင်ခွင့်ပြုပါက လုပ်ကိုင်ဆောင် ရွက်မည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ Hu Pin Co., Ltd. မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့်မြေ(၁၂.၀၇)ဧကအတွက် သစ်တောဦးစီးဌာနမှ မြေနှင့်ပတ်သက်သည့် အထောက်အထားတင်ပြပေးရန်။

(ခ) နှစ်အလိုက်ဝန်ထမ်းခန့်ထားသည့်စာရင်းတင်ပြရန်။

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။

**၁၂။ Jade Marina Resort Hotel Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ်(၁/၂/၁၀၆/၁၀၇)ရှိ မြေ(၆.၆၀)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်မြစန္ဒာက အမှာစာကိုဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏အကြံပေး ဒေါ်သင်းထွဋ်သီတာက ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း) စစ်ထောက်ချုပ်ရုံးပိုင် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ မြေကွက်အမှတ်-(၁/၂/၁၀၆/၁၀၇) ရှိ မြေဧရိယာ(၆.၆၀)ဧကကို ငှားရမ်းပြီး B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ နှစ်စဉ်မြေငှားရမ်းခမှာ ကျပ် ၃၃၀ သိန်းနှင့် အမေရိကန်ဒေါ်လာ ၁၆,၅၀၀ နှစ်မျိုးလုံးဖြင့် ပေးသွင်းရမည်ဖြစ်ပြီး မြေအသုံးချမှုပရီမီယံကြေးမှာ တစ်ဧကလျှင် ကျပ် ၂,၅၀၀ သိန်း နှုန်းဖြင့် စုစုပေါင်းကျပ် ၁၆,၅၀၀ သိန်း ဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၇၁၆၉.၀၀ သန်းဖြစ်ပြီး လုပ်ငန်းသက်တမ်းမှာ ကနဦး (၅၀)နှစ်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ ဝန်ဆောင်မှုပေးမည့် အခန်းအမျိုးအစားမှာ Beach Front Villa (၈)ခန်း၊ Sea View Villa (၁၂)ခန်း၊ Corner Suit (၄)ခန်းနှင့် Deluxe (၆၄)ခန်းတို့ဖြစ်ကြောင်း၊ အဆိုပါအခန်းပေါင်း (၈၈)ခန်းမှ ဝင်ငွေရရှိမည်ဖြစ်ပြီး အခြားဝင်ငွေအနေဖြင့် Extra Bed၊ Food & Beverage နှင့် Other Operation တို့မှ ရရှိမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း(၈၇)ဦးနှင့် ပြည်ပဝန်ထမ်း(၁)ဦးခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ ဖြစ်ကာ အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ကြောင်း၊ ရခိုင်ပြည်နယ်၏ ဟိုတယ်လုပ်ငန်းသဘာဝအရ တစ်နှစ်လျှင် (၇)လသာ လုပ်ကိုင်ရပြီး (၅)လ လုပ်ငန်းရပ်နားရသဖြင့် (၇)လကို တစ်လလျှင် ၁၀၀ % လစာပေးပြီး (၅)လကို တစ်လလျှင် လစာ၏ ၈၀ % ပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်မြစန္ဒာက ယခုကုမ္ပဏီသည် ဟိုတယ်လုပ်ငန်းအတွေ့အကြုံများရှိခဲ့ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကမ်းခြေဒေသများတွင် အခြားစီမံကိန်းများကို ခွင့်ပြုပေးနိုင်သကဲ့သို့ အဆိုပါကုမ္ပဏီအား ခွင့်ပြုပေးမည်ဆိုပါက ပေးနိုင်ပါကြောင်း၊ သို့သော်ကုမ္ပဏီအနေဖြင့် ချုပ်ဆိုခဲ့သောစာချုပ်စာတမ်းများအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်ကြောင်း ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာနမှ တင်ပြထားသည်ကို ကုမ္ပဏီမှသိရှိဆောင်ရွက်နိုင်ရန် ပြောကြားလိုပါကြောင်း၊ ၂၀၀၇ ခုနှစ်တွင် စာချုပ်ချုပ်ဆိုခဲ့သဖြင့် ယခု (၉)နှစ်နီးပါးရှိ

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| (ဆ) မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြတ်အိန္ဒြေ ကုမ္ပဏီများအုပ်စု လီမိတက်မှ စပါးသီးနှံနှင့်ပဲအမျိုးမျိုးကို အဆင့်မြင့် စက်မှုလယ်ယာ စနစ်ဖြင့် စိုက်ပျိုးထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) လုပ်ငန်းဆောင်ရွက်မည့်မြေကိစ္စနှင့်ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ ပြည်ထောင်စုအစိုးရအဖွဲ့သို့ ခွင့်ပြုချက်တောင်းခံရန်။<br>(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသည့် မြေငှားစာချုပ်(မူကြမ်း) တင်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင် တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၊<br>မြတ်အိန္ဒြေ ကုမ္ပဏီများ အုပ်စု လီမိတက် |
| (ဇ) Hu Pin Co., Ltd. မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) လုပ်ငန်းဆောင်ရွက်မည့်မြေ(၁၂.၀၇)ဧကအတွက် သစ်တောဦးစီးဌာနမှ မြေနှင့်ပတ်သက်သည့် အထောက်အထား တင်ပြပေးရန်။<br>(၂) နှစ်အလိုက် ဝန်ထမ်းခန့်ထားသည့် စာရင်းတင်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၊<br>Hu Pin Co., Ltd. |
| (ဈ) Jade Marina Resort Hotel Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ်(၄၀)၊ မြေကွက်အမှတ် (၁/၂/၁၀၆/၁၀၇)ရှိ မြေ(၆.၆၀)ဧကတွင် B.O.Tစနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) B.O.T စနစ်ဖြင့် ငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)တွင် ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီအမည် ပြင်ဆင်တင်ပြရန်။<br>(၂) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၊<br>Jade Marina Resort Hotel Co., Ltd. |
| (ည) Myanmar Agribusiness Public Corporation Limited (MAPCO)မှ B.O.T စနစ်ဖြင့် ဆန်နှင့်ကောက်ပဲသီးနှံ တင်ချရန် | အဆိုပြုချက် |

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ခေတ်မီအပြည့်ပြည့်ဆိုင်ရာ ဘက်စုံသုံးဆိပ်ခံတံတားနှင့် စီးပွားရေးလုပ်ငန်းဆောင်တာများ၏ ဆက်စပ်အဆောက်အအုံများ အကောင်အထည်ဖော် တည်ဆောက်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ပြုပါရန် ပို့ဆောင်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍-<br>(၁) လုပ်ငန်းအမျိုးအစားပြင်ဆင်တင်ပြရန်။<br>(၂) နှစ်အလိုက်ဝန်ထမ်းအင်အားနှင့် လစာစာရင်းတင်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | စိစစ်ရေးအဖွဲ့<br>Myanmar Agribusiness Public Corporation Limited |
| (၄) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သိန်းမင်းစက်မှုလုပ်ငန်းအဖွဲ့ ကုမ္ပဏီလီမိတက် တည်ထောင်ကာ ဂွမ်းကပ်မွေ့ယာနှင့် ဂွမ်းကပ်စောင်များ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းနှင့်စပ်လျဉ်း၍ သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>သိန်းမင်းစက်မှု လုပ်ငန်းအဖွဲ့ ကုမ္ပဏီလီမိတက် |
| (၅) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Leader Steel (Myanmar) Co.,Ltd.မှ ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများဖြစ်သော အဝိုင်းနှင့်လေးထောင့်ပုံ သံပိုက်လုံး အရွယ်အစားအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်မည့် အစီအမံများနှင့်စပ်လျဉ်း၍ မူလလုပ်ငန်းနှင့် ယခုအဆိုပြုတင်ပြသည့်လုပ်ငန်း ကွဲပြားမှုမရှိခြင်း၊ အဆင့်မြင့်ကျွမ်းကျင်မှုနည်းပညာ ရရှိမှုမရှိခြင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခြေခံမူများနှင့် ကိုက်ညီမှုမရှိခြင်းတို့ကြောင့် မြန်မာကုမ္ပဏီ အနေဖြင့်သာ လုပ်ငန်းဆောင်ရွက်သွားစေရန် သင့်တော်ကြောင်းအသိပေးရန် ဆုံးဖြတ်ပါသည်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Leader Steel (Myanmar) Co., Ltd. |

၁၇။ အစည်းအဝေးကို ညနေ(၄း၂၀) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(စန်းစန်းမြင့်)
ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက-၆/ ၁/ ၂၀၁၆ ( ၀၀၆၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၉ ရက်

**ဖြန့်ဝေခြင်း**

အစည်းအဝေးတက်ရောက်သူများအားလုံး

DOG 301 / 19/1/16

အထွေထွေအရပ်ရပ်-၁၆

ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၈ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်များ တောင်းခံခြင်းကိစ္စ**

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း ရှိ မြေ ၁၂.၀၇ ဧက တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ ယင်းအဆိုပြုချက်နှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနတို့သို့ သဘောထားတောင်းခံမည့် **(စာချော)**များတွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန်ပြုစု တင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | အတည်ပြုသူ |
|---|---|---|---|
| လက်မှတ် | (signature) 19/1/16 | (signature) 19/1/16 | (signature) 19/1 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ ၁၁ ကော်မတီဌာနများမှ သဘောထားတောင်းခံမည့် စာတွင်လက်မှတ်ရေးထိုးပေး နိုင်ပါရန်တင်ပြအပ်ပါသည်။

(signature) 19.1.16

(ဒေါ်ယဉ်ဇော်ဦး)

ညွှန်ကြားရေးမှူး

၄။ သက်ဆိုင်ရာဌာနများသို့ သဘောထား တောင်းခံမည့် စာအား လက်မှတ်ရေး ပေးပါရန် တင်ပြအပ်ပါသည်။

(signature) 19.1.16

ဒုညွှန်ချုပ်

၅။ [illegible]

[illegible]

(signature)

[illegible]

HU PIN No INV-3

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎-၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၁၉/၂၀၁၆( ၁၂၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်

သို့

ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **သဘောထား မှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁) နိုင်ငံတော်သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၃၃/၂၀၁၁

(၂) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ (၇-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၃(၂)/၀၃(ခ)(၁)/(၀၇၁/၂၀၁၆)

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေ မြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ဧက တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၂)ပါစာဖြင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇) ၊ ပုဒ်မ (၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို ကော်မရှင်က စိစစ်ရာတွင် သက်ဆိုင်ရာ ပြည်နယ် / တိုင်းဒေသကြီး အစိုးရ တို့၏ သဘောထားကို ရယူရန်လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရတို့၏ ထောက်ခံချက်ကို အထူးအလေးထားစဉ်းစားပါသဖြင့် ဝန်ကြီးချုပ် ကိုယ်တိုင်စိစစ် လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်းချက်(၁)ပါ စာပိုဒ် ၃(စ) တွင် ဖော်ပြထားပါသည်။

၄။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံး စိစစ်ပေးရန် နိုင်ငံတော် သမ္မတရုံး မှ ညွှန်ကြားထားပါသဖြင့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ တစ်ဖက်ဖော်ပြပါ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍

**ဦးအောင်ဆန်းဝင်း ဖုန်းနံပါတ် ၀၉-၄၄၈၀၀၃၃၇၆** သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် တစ်စောင်အား ပူးတွဲ ပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာ ဟုတ်-မဟုတ်။

(င) ရှမ်းပြည်နယ် အစိုးရအဖွဲ့၏ သုံးသပ် အကြံပြုချက်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

Hu Pin Company Limited

ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

Myanmar Investment Commission

ဖက်(စ်) ၀၁-၆၅၈၁၃၇

☎ - ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၁၉/ ၂၀၁၆( ၀၉၁ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၂၀ ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန ၏ (၇-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၃(၂)/၀၃(ခ)(၁)/(၀၇၁/၂၀၁၆)

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ဧက တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှ တစ်ဆင့် ရည်ညွှန်း(၂)ပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံး စိစစ်ပေးရန် နိုင်ငံတော် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းပန်ကြီးဌာန၏ အောက်ပါ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ဦးအောင်ဆန်းဝင်း ဖုန်းနံပါတ် ၀၉-၄၄၈၀၀၃၃၇၆** သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အဆိုပြုလွှာ (တစ်)စောင်အား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ဝန်ဆောင်ခ နှုန်းထားများ တင်ပြထားမှုများသည် ဆီလျော်မှု ရှိ-မရှိ ။

(ခ) ဖော်ပြပါ အဆိုပြုချက်နှင့်ပတ်သက်၍ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ သဘောထားနှင့် အကြံပြုချက် ။

ဥက္ကဋ္ဌ(ကိုယ်စား)

(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

HU PIN(H)INV 3.com

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

Hu Pin Company Limited

ရုံးလက်ခံ / မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ - ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၁၉/၂၀၁၆( ၀၇၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၃ ရက်

သို့

အဖွဲ့ခေါင်းဆောင်
ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
One Stop Service အဖွဲ့

အကြောင်းအရာ။ **သဘောထား မှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန ၏ (၇-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၃(၂)/၀၃(ခ)(၁)/(၀၇၁/၂၀၁၆)

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း ရှိ မြေ ၁၂.၀၇ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနမှတစ်ဆင့်ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း အတွက် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိ နှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့်အချက်များ အပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ဦးအောင်ဆန်းဝင်း ဖုန်းနံပါတ် ၀၉-၄၄၈၀၀၃၃၇၆** သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် (တစ်)စောင် ပူးတွဲပေးပို့လျက်ညှိနှိုင်း မေတ္တာရပ်ခံအပ် ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၈ ရက်

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၆) အစည်းအဝေးသို့ တင်ပြရန် အမှာစာ တင်ပြခြင်းကိစ္စ**

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း ရှိ မြေ ၁၂.၀၇ ဧက တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းဖြစ်ပါသည်။

၂။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ (စာချော)**အား ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | အတည်ပြုသူ |
|---|---|---|---|
| လက်မှတ် | 18/1/16 | 18/1/16 | 18/1 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

ဒုတိယညွှန်ကြားရေးမှူး

၃။ [illegible] အဆိုပြုချက် PAT (4/2016) အစည်းအဝေးသို့ တင်ပြမည့် အမှာ စာအား [illegible] တင်ပြအပ်ပါသည်။

18/1/16
([illegible])

ညွှန်ကြားရေးမှူး

၄။ [illegible]

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## အဆိုပြုချက်စိစစ်ရေးအဖွဲ့

စာအမှတ်၊ရက-၄/မ-၁၅၁၉/၂၀၁၆( ၀၇၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Hu Pin Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း ရှိ မြေ ၁၂.၀၇ ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ကြူကြူသင်း မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့်စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Hu Pin Company Limited မှ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအားလုပ်ကိုင်ဆောင်ရွက်ခွင့်အတွက် အဆိုပြုချက်တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်းနှင့် မညီညွတ်သည့်ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(signature)

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(မြစန္ဒာ၊ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



HU PIN PAT memo IN V 3

### Hu Pin Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင် ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

<table>
<tr><td>၁။</td><td>ကုမ္ပဏီအမည်</td><td>- Hu Pin Company Limited</td></tr>
<tr><td>၂။</td><td>လုပ်ငန်းအဆိုပြုသူအမည်</td><td>- ဒေါ်ကြူကြူသင်း(မန်နေဂျင်းဒါရိုက်တာ)</td></tr>
<tr><td>၃။</td><td>အဆိုပြုလုပ်ငန်းအမျိုးအစား</td><td>- နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း</td></tr>
<tr><td>၄။</td><td>လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း</td><td>- ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေ မြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်းရှိ မြေ ၁၂.၀၇ ဧက</td></tr>
<tr><td>၅။</td><td>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ငွေပမာဏ<br>ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ<br>အဆောက်အဦ</td><td>- ကျပ် ၃၀၀၀.၀၀ သန်း<br>- ကျပ် ၁၁၅၀.၀၀ သန်း<br>- ကျပ် ၉၅၀.၀၀ သန်း<br>- ကျပ် ၉၀၀.၀၀ သန်း</td></tr>
<tr><td>၆။</td><td>ရင်းနှီးမြှုပ်နှံမှုသက်တမ်း</td><td>- တင်ပြထားခြင်းမရှိပါ။</td></tr>
<tr><td>၇။</td><td>တည်ဆောက်ရေးကာလ</td><td>- (၁၈)လ</td></tr>
<tr><td>၈။</td><td>ပဏာမစူးစမ်းလေ့လာမှုကာလ</td><td>- (၆) လ</td></tr>
<tr><td>၉။</td><td>မြေငှားရမ်းခနှုန်းထား<br><br>မြေအသုံးချမှုပရီမီယံကြေး</td><td>- တစ်ဧကလျှင်ကျပ် ၂၀၀,၀၀၀ နှုန်းဖြင့် မြေ(၁၂.၀၇)ဧက အတွက် ကျပ် ၂,၄၁၄,၀၀၀<br>- တစ်ဧကလျှင် ကျပ် ၅၀,၀၀၀ နှုန်းဖြင့် စုစုပေါင်း(၁၂.၀၇)ဧက အတွက် ကျပ် ၆၀၃,၅၀၀</td></tr>
<tr><td></td><td>ဝန်ဆောင်မှု<br>(၆)နှစ်မြောက်)</td><td>
<table>
<tr><td>စဉ်</td><td>အမျိုးအစား</td><td>အခန်း အရေ အတွက်</td><td>ဝန်ဆောင်မှု ပေးမည့် အခန်း (Occupancy Rate %)</td><td>ဝန်ဆောင်ခနှုန်း (တစ်ရက်)<br>US$</td></tr>
<tr><td>(က)</td><td>Superior Type</td><td>၁၀</td><td>၅၀</td><td>၆၀</td></tr>
<tr><td>(ခ)</td><td>Cottage Type</td><td>၂၅</td><td>၅၀</td><td>၁၂၀</td></tr>
<tr><td></td><td>စုစုပေါင်း</td><td>၃၅</td><td></td><td></td></tr>
</table>
</td></tr>
<tr><td>၁၁။</td><td>ဝင်ငွေ<br>(၆)နှစ် မြောက် ဝင်ငွေအား ကောက်နုတ်တင်ပြထားခြင်း ဖြစ်ပါသည်။</td><td>- US$ ၂.၇၁ သန်း<br>- ကျပ် ၁၄၀.၁၆ သန်း</td></tr>
<tr><td>၁၂။</td><td>အသားတင်အမြတ်<br>(၆ နှစ်မြောက်)</td><td>- ကျပ် ၂၉၉.၆၅ သန်း</td></tr>
</table>

| | | |
|---|---|---|
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၉၉.၈၈ သန်း<br>- ကျပ် ၇.၀၀ သန်း၊ US$ ၀.၁၃ သန်း |
| ၁၄။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br><br><br>ပြည်ပ | - ပြည်တွင်းမှ ဝန်ထမ်း (၁၄၀)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်(၁၂၀,၀၀၀)ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် (၁,၀၀၀,၀၀၀) ဖြစ်ပါသည်။<br>- မရှိပါ။ |
| ၁၅။ | အရင်းကြေကာလ | - (၅)နှစ်၊ (၂)လ |
| ၁၆။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၇.၃၄% |
| ၁၇။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက် အထားအဖြစ် ဒေါ်ကြူကြူသင်း နှင့် ဦးစိုးသူ အမည်တို့ဖြင့် KBZ Bank (Kyeemyindine Branch) တွင် (၁၆-၃-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၂၄,၈၆၃,၅၇၃.၀၅ ၊ ဒေါ်ကြူကြူသင်းနှင့် ဒေါ်ချိုပြုံးရီ အမည် တို့ဖြင့် AYA Bank တွင်(၁၆-၃-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၀၉,၅၉၈,၈၂၅.၂၈ နှင့် ဒေါ်ကြူကြူသင်း၊ ဦးအောင်စန်း ဝင်း အမည်တို့ဖြင့် MYANMA ECONOMIC BANK (Savings Bank Branch-1) တွင် (၁၆-၃-၂၀၁၅)ရက်စွဲဖြင့် ငွေ လက်ကျန် ကျပ်၁၃၇,၇၉၈,၃၂၃ ရှိ ကြောင်းဖော်ပြထားပါသည်။<br>- နိုင်ငံခြားငွေ အထောက်အထားအဖြစ် Hu Pin Hotel အမည်ဖြင့် KBZ Bank (Kyauktadar-IBD Branch) တွင် (၁၃-၃-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် US$ ၁၆၈,၅၁၄.၄၅ ရှိ ကြောင်း ဖော်ပြထားပါသည်။ |
| ၁၈။ | အခြားတင်ပြချက်များ | (က)ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ သစ်တော ဦးစီးဌာန နှင့် Hu Pin Company Limited တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့်အညီ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-<br>(၁) မြေတည်နေရာသည် ပြည်ထောင်စု သမ္မတ မြန်မာ နိုင်ငံတော်ကိုယ်စား၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံ |

ခန့်ခွဲပိုင်ခွင့်ရှိသော၊ သဘာဝနယ်မြေ တစ်ခုဖြစ်သည့် အင်းလေးကန် တောရိုင်းတိရစ္ဆာန် ဘေးမဲ့တော ဟု သတ်မှတ်ထားသော မြေပုံတွင် အမှတ်အသား ပြထားသည့် ဘောင်အတွင်းရှိ မြေဧရိယာ(၁၂.၀၇)ဧက ဖြစ်ပါသည်။ **အပိုဒ်-၅(၁)**

(၂) မြေငှားရမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ်(၅၀)နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် **နောက်ထပ် (၁၀) နှစ်(၂)ကြိမ်သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။** **အပိုဒ်-၅(၂)**

(၃) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ကျပ် ၅၀,၀၀၀ နှုန်းဖြင့် မြေ (၁၂.၀၇) ဧကအတွက် ကျပ် ၆၀၃,၅၀၀ ကို စာချုပ်ချုပ်ဆို လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၃၀) အတွင်း ပေးသွင်းရမည် ဖြစ်သည်။ အကယ်၍ သတ်မှတ် ကာလထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် ၂,၀၀၀ နှုန်းဖြင့်ပေးဆောင်ရမည်။ အပိုဒ်-၉(၁)

(၄) မြေအသုံးချမှု အတွက် ပရီမီယံကြေး ပေးသွင်းရာတွင် အငှားချထားသူ၏ နေပြည်တော်မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းသို့ပေးသွင်းရမည်။ **အပိုဒ်-၉(၂)**

(၅) မြေငှားရမ်းခမှာ တစ်နှစ်တစ်ဧကလျှင် ကျပ် ၂၀၀,၀၀၀ နှုန်းဖြင့် စုစုပေါင်းမြေ ၁၂.၀၇ ဧက အတွက် ကျပ် ၂,၄၁၄,၀၀၀ ကို စာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ နောင်နှစ်များတွင်လည်း နှစ်စဉ် သက်တမ်း မစတင်မီ ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီး ပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် ၅,၀၀၀ နှုန်း ပေးဆောင်ရမည်။ **အပိုဒ်-၁၀(၁)**

(၆) မြေငှားရမ်းခ နှုန်းထားများကို(၅)နှစ်တစ်ကြိမ် ပြန်လည်ပြင် ဆင်သတ်မှတ်ရန်နှင့်စာချုပ်ပြန်လည် ချုပ်ဆိုသည့်

| | | |
|---|---|---|
| | | အခါ ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက်ညှိနှိုင်း၍ လက်ရှိ စာချုပ်ပါငှားရမ်းခ၏၁၀%ထက်မပိုသော နှုန်းထားဖြင့် ပြန်လည် ပြင်ဆင် သတ်မှတ်သွားမည် ဖြစ်ပါသည်။ **အပိုဒ်-၁၀(၂)**<br>(၇) Hu Pin Company Limited မှ လုပ်ငန်း ဆောင်ရွက်မှု ဘဏ်အာမခံငွေ အဖြစ် တစ်နှစ်ငှားရမ်းခ ဖြစ်သော ကျပ် ၂၄၁၄၀၀၀ ကို ဘဏ်အာမခံထားရှိရမည်။ အဆိုပါ ဘဏ်အာမခံငွေကို စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း(၃၀) အတွင်းပေးသွင်းရမည်။ Hu Pin Company Limited သည် ငှားရမ်းကာလ ပြီးဆုံးသည့် အချိန်တွင် ဘဏ်အာမခံငွေကိုပြန်လည်ထုတ်ယူနိုင်သည်။ **အပိုဒ်-၂၄(၁)** |
| ၁၉။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | (က) ကုမ္ပဏီမှ CSR(Corporate Social Responsibility) အတွက် Net Profit ၏ ၁% ကို သုံးစွဲရန် လျာထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(ခ) အဆိုပြုလုပ်ငန်းတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းဟု ဖော်ပြထားသော်လည်း ဟိုတယ်အဆင့် သတ်မှတ်ချက် ဖော်ပြပေးရန်။<br>(ဂ) မြေစာရင်းပုံစံ ၁၀၆ ရှိ မြေအမည်ပေါက် ပိုင်ရှင်အမည်မှာ ဖော်ပြထားခြင်း မရှိကြောင်း စိစစ်တွေ့ရှိရပါသည်။<br>(ဃ) အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့် အဆောက်အဦ အလှဆင်ပစ္စည်းများကို ပြည်တွင်းမှဝယ်ယူအသုံးပြုသွားပါမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(င) ယခုတင်ပြလာသည့် လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီသည် အင်းလေးခေါင်တိုင်ဟူပင်ဟိုတယ်အမည်ဖြင့်ဟိုတယ်လုပ်ငန်းဆောင်ရွက်လျက်ရှိပါသည်။<br>(စ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် ပိုင်ရှင်ဖြစ်သူ ဒေါ်ကြူကြူသင်းမှ ၂၀၁၁ ခုနှစ် ပုဂ္ဂလိကပိုင် ပြုလုပ်ရေးကော်မတီ (၁/၂၀၁၁) အစည်းအဝေးတွင် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာနမှ ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာရှိ အင်းလေးခေါင်တိုင် ဟူပင်ဟိုတယ်၏ မြေ(၃၀.၉၂)ဧကကို ဝယ်ယူခဲ့ပြီးဖြစ်သော်လည်း ပုဂ္ဂလိကပိုင် ပြုလုပ်ရေး ကော်မရှင်၏ (၄/၂၀၁၂) |

| | | |
|---|---|---|
| | | အစည်း အဝေးမှ ယင်းဟိုတယ်၏ မြေအား (၁၉.၀၇)ဧကသို့ ပြင်ဆင်သတ်မှတ်ခဲ့ပါသည်။ မူလ ဝယ်ယူစဉ်က ပါရှိခဲ့သော (၁၂.၀၇)ဧကသည် အင်းလေးကန် တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော ဧရိယာအတွင်း ကျရောက်ပြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေဖြစ်ပြီး၊ ဝယ်ယူထားသည့် မြေ(၁၉.၅၀)ဧကနှင့် တစ်ဆက်တစ်စပ်တည်းရှိခြင်း၊ အင်းလေးရေပြင်ပိုင်းကွင်းဖြစ်ပြီးဒေသခံပြည်သူများ၏ မြေနှင့်ထိစပ်မှုမရှိခြင်းတို့ကြောင့် နှစ်ရှည်မြေငှားရမ်းခြင်း စာချုပ်ဖြင့် ငှားရမ်းအသုံးပြုခွင့် ပြုမည် ဖြစ်ပါသည်။<br>(ဆ) ဟိုတယ် အဆောက်အဦ တည်ဆောက်မှုမှာ ၇၅ % ပြီးစီးသွားပြီ ဖြစ်ပါကြောင်း တင်ပြထားပါသည်။<br>(ဇ) အဆိုပြုလုပ်ငန်း၏ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများအား ကော်မရှင်ရုံးအဖွဲ့မှ ထပ်မံ၍စိစစ်ပြီးပါကပြင်ဆင်တင်ပြရန်။ |
| ၂၀။ | သဘောထားမှတ်ချက်တောင်းခံမည့် ဌာနများ | - ရှမ်းပြည်နယ် အစိုးရအဖွဲ့၊ ဟိုတယ် နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန တို့ထံသို့ သဘောထားများ တောင်းခံမည် ဖြစ်ပါသည်။ |

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက် ဖြစ်ပါသည်။

ရင်းနှီး(၃)မှ

PAT (၄/၂၀၁၆)အစည်းအဝေးတွင်

**တင်ပြမည့် Agenda**

Hu Pin  Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် **နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

**အထူးဖိတ်-**

၁။ ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန
၀၆၇-၄၀၅၀၁၅

၂။ ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
၀၆၇-၄၀၆၄၀၆



HU PIN PAT memo INV 3

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ရာတွင် စိစစ်ရမည့် အဓိက အချက်များ

ကဏ္ဍ - ဟိုတယ်နှင့် ခရီးသွား

ဆောင်ရွက်မည့်လုပ်ငန်း - ဟိုတယ်/ခရီးသွား လုပ်ငန်း

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၁။ | **မြေနေရာနှင့် စပ်လျဉ်းသည့် အချက်များ**<br>(က)ကိုယ်ပိုင်မြေ ဖြစ်ပါက လန/ ၃၉ ရရှိကြောင်း အထောက်အထား/ လျှောက်ထားဆဲ အထောက်အထား/ မြေစာရင်းပုံစံ (၁၀၅) တင်ပြရန်၊<br>(ခ) ပုဂ္ဂလိက မြေနှင့်အဆောက်အဦ ငှားရမ်း ဆောင်ရွက်ခြင်းဖြစ်လျှင် အငှား စာချုပ် (မူကြမ်း)<br>(ဂ) ဌာနပိုင်မြေ အဆောက်အဦပေါ်တွင် ဆောင်ရွက်မည်ဆိုပါက ရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ်(မူကြမ်း) နှင့်အတူ သက်ဆိုင်ရာဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန် | ✓ |
| ၂။ | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ**<br>(က) ပြည်တွင်းမှ ဝယ်ယူမည့် စာရင်း၊<br>(ခ) ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✓ |
| ၃။ | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ**<br>(က) နှစ်စဉ်ဝန်ဆောင်မှု ရည်မှန်းချက် ✓<br>(ခ) ဝန်ဆောင်မှုအစီအစဉ် ✓<br>(ဂ) အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) ✓<br>(ဃ) ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement) ၊ IRR ၊ Pay back တွက်ချက်မှုများ(ကိန်းဂဏန်းအချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) ✓<br>(င) နိုင်ငံတော်က ရရှိမည့် အကျိုးအမြတ် အခြေအနေ (ဝင်ငွေခွန်/ ကုန်သွယ်လုပ်ငန်းခွန်) ✓<br>(စ) အလုပ်အကိုင် ရရှိမှု အခြေအနေ (ပြည်တွင်း/ပြည်ပ ဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု) ✓ | ✓ |
| ၄။ | **ငွေကြေးအထောက်အထား**<br>(က) ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဝယ်ယူပြီးတန်ဖိုးမှအပ ဘဏ် အထောက်အထား တင်ပြရန်၊ ✓<br>(ခ) ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏ Bank Statement တင်ပြရန်၊ ✓ | ✓ |

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၅။ | **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ဟိုတယ်လုပ်ငန်းလိုင်စင်** | |
| ၆။ | - ဟိုတယ်လုပ်ငန်းဖြစ်ပါကအမျိုးသားယဉ်ကျေးမှုနှင့်ပတ်သက်၍ထိန်းသိမ်းသွားနိုင်ရေးအတွက် သက်ဆိုင်ရာဌာန/အဖွဲ့အစည်းအသီးသီး မှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း ဝန်ခံ ကတိပြုချက် တင်ပြရန်၊ | |
| ၇။ | **အထွေထွေ** | |
| | (က) အဆိုပြုတင်ပြခြင်းနှင့်အခွန်အကောက်ကင်းလွတ်ခွင့်လျှောက်လွှာ | ✓ |
| | (ခ) ကတိဝန်ခံချက် | ✓ |
| | (ဂ) ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ | ✓ |
| | (ဃ) လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | ✓ |
| | (င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | ✓ |
| | (စ) လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် | ✓ |
| | (ဆ) အဆောက်အဦ ဆောက်လုပ်ပြီးဖြစ်ပါက အဆောက်အဦ ဓါတ်ပုံ မိတ္တူ | ✓ |
| | (ဇ) အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | ✓ |
| | (ဈ) လူမှုသဘာဝ သာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility- CSR) ဆောင်ရွက်မည့် အစီအစဉ်တင်ပြရန်။ (ရရှိမည့် အကျိုးအမြတ်၏ ရာခိုင်နှုန်းတစ်ရပ် တိတိကျကျ သတ်မှတ်ဖော်ပြရန်) | ✓ |
| | (ည) ကုမ္ပဏီဖွဲ့စည်းပြီးပါက ကုမ္ပဏီမှတ်ပုံတင် လက်မှတ် / ပုံစံ (၆) (အစုရှယ်ယာ လွှဲပြောင်းမှု) / ပုံစံ (၂၆) (ဒါရိုက်တာစာရင်း) | ✓ |
| ၈။ | **လုပ်ငန်းနှင့် သက်ဆိုင်သည့် စာချုပ်များ** | |
| | (က) ဌာနပိုင်မြေကို BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပါက ရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက်နှင့် အညီပြုစုထားသည့် BOT စာချုပ် (မူကြမ်း) | |
| | (ခ) ဌာနနှင့် ဖက်စပ်လုပ်ငန်း ဆောင်ရွက်ပါက လုပ်ငန်းသဘောတူ စာချုပ် (မူကြမ်း) | |

| လာရောက်တင်ပြသူ | | စိစစ်သူ | |
|---|---|---|---|
| လက်မှတ် | [signature] | လက်မှတ် | [signature] |
| အမည် | [illegible] | အမည် | [illegible] |
| တာဝန် | [illegible] | ရာထူး | [illegible] |
| ကုမ္ပဏီ | [illegible] | ဌာနခွဲ | [illegible] |
| နေ့စွဲ | [illegible] | နေ့စွဲ | [illegible] |

DG 13 22/2/16

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၃)/( ၆၈ /၂၀၁၆)
ရက်စွဲ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက် နှင့် အညီ ပြင်ဆင်တင်ပြခြင်း ကိစ္စ**

ရည်ညွှန်းချက်။ (၁) ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ၇-၁-၂၀၁၆ ရက်စွဲပါစာအမှတ် ၃(၂)/၀၃(ခ)(၁)/(၀၇၁/၂၀၁၆)
(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂ - ၂ - ၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက - ၄ / မ-၁၅၁၉ / ၂၀၁၆ (၀၃၉)

၁။ Hu Pin Company Limited မှ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ် ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇ - ခေါင်တိုင်ရွာကွင်းရှိ မြေ (၁၂.၀၇) ဧကတွင် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း နှင့် ပတ်သက်၍ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄ /၂၀၁၆) (၂၅- ၁ -၂၀၁၆) အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့သဖြင့် သစ်တောဦးစီးဌာနမှ ယင်းဆုံးဖြတ်ချက်အတိုင်း ပြင်ဆင်ပြီး ပြန်လည်တင်ပြပေးပါရန် ရည်ညွှန်းချက်(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့်မြေ (၁၂.၀၇)ဧကအတွက် သစ်တောဦးစီးဌာနမှ မြေနှင့်ပတ်သက်သည့် အထောက်အထားတင်ပြရန်။

(ခ) နှစ်အလိုက် ဝန်ထမ်းခန့်ထားမည့်စာရင်းတင်ပြရန်။

၂။ အထက်ပါ ဆုံးဖြတ်ချက်အရ သစ်တောဦးစီးဌာနမှ နှစ်ရှည်မြေငှားစာချုပ်ဖြင့် ငှားရမ်းမည့် မြေ (၁၂.၀၇) ဧကအတွက် မြေပုံ နှင့် အထောက်အထားကိုလည်းကောင်း၊ Hu Pin Company Limited မှ နှစ်အလိုက် ခန့်ထားမည့် ဝန်ထမ်းစာရင်းကိုလည်းကောင်း၊ လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် ပူးတွဲပေးပို့အပ်ပါသည်။

၁၈/၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

D:\DHHW\February\MIC(To-MIC).doc1 |

အင်းလေးခေါင်တိုင် (ဟူပင်) ဟိုတယ် ရေပေါ်ဆောင် အဆောက်အဦ မြေ( ၁၂.၀၇ )ဧကအား
မြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်မြေနေရာ ခန့်မှန်း တည်နေရာပြမြေပုံ



အင်းလေးခေါင်တိုင် (ဟူပင်) ဟိုတယ် ရေပေါ်ဆောင် အဆောက်အဦးမြေ
(၁၂.၀၇ )ဧကအားမြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်မြေနေရာ ဧရိယာပြမြေပုံ




## ရည်ညွှန်းချက်

၁။မြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်

ဧရိယာ (၁၂.၇) ဧက -

(စိန်ထွန်း)
အုပ်ချုပ်ရေးမှူး
အင်းလေးကန်ဘေးမဲ့တော
ညောင်ရွှေမြို့

အင်းလေးခေါင်တိုင် ( ဟူပင်) ဟိုတယ် ရေပေါ်ဆောင် အဆောက်အဦး မြေ
( ၁၂.၀၇ )ဧကအားမြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်မြေနေရာ မြေတိုင်းမှတ်စု

| No | Station | Forward-B | Distance | N-Latitude | E-Longitude | Remark |
|---|---|---|---|---|---|---|
| 1 | A to B | 97° true | 0.1 mi | N20 35.580 | E96 52.611 | |
| 2 | B to C | 195° true | 0.2 mi | N20 35.567 | E96 52.723 | |
| 3 | C to D | 273° true | 287 ft | N20 35.429 | E96 52.684 | |
| 4 | D to E | 285° true | 137 ft | N20 35.431 | E96 52.634 | |
| 5 | E to F | 303° true | 157 ft | N20 35.437 | E96 52.611 | |
| 6 | F to A | 10° true | 0.2 mi | N20 35.450 | E96 52.588 | ( 12.07 ) Acs |

(စိန်ထွန်း)
အုပ်ချုပ်ရေးမှူး
အင်းလေးကန်သားမှဲ့တော
ညောင်ရွှေမြို့

အင်းလေးခေါင်တိုင် ( ဟူပင်) ဟိုတယ် ရေပေါ်ဆောင် အဆောက်အဦ မြေ( ၁၂.၀၇ )ဧကအား
မြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်မြေနေရာ၏ နယ်နိမိတ်လားရာဖော်ပြချက်

| | |
|---|---|
| မြောက်ဘက်။ | ။ အင်းလေးကန်ဘေးမဲ့တောဧရိယာအတွင်း မူလခွင့်ပြုပယ်ဖျက်ပြီး ခေါင်တိုင် (ဟူပင်) ဟိုတယ် အရှေ့ဘက် နယ်နိမိတ်နှင့် တဆက်တစပ်တည်း G.P.S အညွှန်းအရ မြောက်လတ္တီတွဒ်၂၀˚ ၃၅.၅၈၀' နှင့် အရှေ့လောင်ဂျီတွဒ် ၉၆˚၅၂.၆၁၁' အမှတ် (A) မှ ရှေ့ရှုဘယ်ရင် ၉၇˚ ဖြင့် ၄၀၀ ပေအကွာအမှတ် (B) အထိ၊ |
| အရှေ့ဘက်။ | ။ ထိုမှ ရှေ့ရှုဘယ်ရင် ၁၉၅˚ ဖြင့် ၈၇၂ ပေအကွာ အမှတ် (C) အထိ၊ |
| တောင်ဘက်။ | ။ ထိုမှရှေ့ရှုဘယ်ရင် ၂၇၃˚ ဖြင့် ၂၈၇ ပေအကွာ အမှတ် (D) အထိ၊ ထိုမှ ရှေ့ရှု ဘယ်ရင် ၂၈၅˚ ဖြင့် ၁၃၇ ပေအကွာ အမှတ် (E) အထိ၊ ထိုမှ ရှေ့ရှုဘယ်ရင် ၃၀၃˚ ဖြင့် ၁၅၇ ပေအကွာ အမှတ် (F) အထိ၊ |
| အနောက်ဘက်။ | ။ ထိုမှရှေ့ရှုဘယ်ရင် ၁၀˚ ဖြင့် ၈၀၀ ပေအကွာမူလခွင့်ပြုပယ်ဖျက်ပြီးခေါင်တိုင် (ဟူပင်) ဟိုတယ်အရှေ့ဘက်နယ်နိမိတ်နှင့်တဆက်တစပ်တည်းမူလစတင်ရာ အမှတ်(A) အထိ။ |

(စိန်ထွန်း)
အုပ်ချုပ်ရေးမှူး
အင်းလေးကန်ဘေးမဲ့တော
ညောင်ရွှေမြို့

Exhibit No. ( VI )

# LIST OF PERSONNEL REQUIREMENT & AMOUNT

| Sr. No. | DESCRIPTION | No. of Require-Ment | Salary per month Ks. | Month | Tot. Amt. Ks. (000) Yr. 1 | Tot. Amt. Ks. (000) Yr. 2 | Tot. Amt. Ks. (000) Yr. 3 | Tot. Amt. Ks. (000) Yr. 4 | Tot. Amt. Ks. (000) Yr. 5 | Tot. Amt. Ks. (000) Yr. 6 | Tot. Amt. Ks. (000) Yr. 7 | Tot. Amt. Ks. (000) Yr. 8 | Tot. Amt. Ks. (000) Yr. 9 | Tot. Amt. Ks. (000) Yr. 10 ~ 30 |
|---|---|---|---|---|---|---|---|---|---|---|---|---|---|---|
| A. | LOCAL PERSONNEL | | | | | | | | | | | | | |
| 1 | General Manager | 1 | 1,000,000 | 12 | 12,000 | 12,072 | 12,144 | 12,167 | 12,190 | 12,263 | 12,337 | 12,411 | 12,486 | 12,560 |
| 2 | Administrative Manager | 1 | 800,000 | 12 | 9,600 | 9,658 | 9,716 | 9,753 | 9,790 | 9,849 | 9,908 | 9,968 | 10,027 | 10,088 |
| 3 | Financial Manager | 1 | 800,000 | 12 | 9,600 | 9,658 | 9,716 | 9,774 | 9,832 | 9,891 | 9,951 | 10,011 | 10,071 | 10,131 |
| 4 | Hotel Manager | 2 | 800,000 | 12 | 19,200 | 19,265 | 19,381 | 19,497 | 19,614 | 19,732 | 19,850 | 19,969 | 19,889 | 19,858 |
| | Office Staff | 12 | 150,000 | 12 | 21,600 | 21,730 | 21,860 | 21,991 | 22,120 | 21,953 | 21,885 | 21,816 | 21,747 | 21,877 |
| 6 | Bell Man | 20 | 120,000 | 12 | 28,800 | 28,980 | 29,114 | 29,188 | 29,263 | 29,239 | 29,415 | 29,291 | 29,417 | 29,293 |
| 7 | Waiter | 30 | 120,000 | 12 | 43,200 | 43,459 | 43,708 | 43,570 | 43,432 | 43,392 | 42,953 | 42,910 | 42,968 | 42,926 |
| 8 | Cooker | 6 | 150,000 | 12 | 10,800 | 10,865 | 10,930 | 10,996 | 11,062 | 11,128 | 11,195 | 11,262 | 11,329 | 11,368 |
| 9 | Skilled Workers | 15 | 130,000 | 12 | 23,400 | 23,540 | 23,682 | 23,624 | 23,565 | 23,707 | 23,849 | 23,992 | 24,036 | 24,180 |
| 10 | Semi - Skilled Workers | 20 | 125,000 | 12 | 30,000 | 30,180 | 30,361 | 30,443 | 30,526 | 30,409 | 30,522 | 30,555 | 30,588 | 30,772 |
| 11 | Un-skilled Workers | 20 | 120,000 | 12 | 28,800 | 28,973 | 29,147 | 29,222 | 29,297 | 29,506 | 29,583 | 29,637 | 29,689 | 29,667 |
| 12 | Driver | 8 | 150,000 | 12 | 14,400 | 14,486 | 14,573 | 14,611 | 14,648 | 14,736 | 14,825 | 14,914 | 14,953 | 14,943 |
| 13 | Guard Man | 4 | 120,000 | 12 | 5,760 | 5,795 | 5,829 | 5,824 | 5,819 | 5,854 | 5,889 | 5,925 | 5,960 | 5,996 |
| | Total | 140 | | | 257,160 | 258,660 | 260,160 | 260,660 | 261,160 | 261,660 | 262,160 | 262,660 | 263,160 | 263,660 |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

## အဆိုပြုချက်

**ဟူ ပင် ကုမ္ပဏီ လီမိတက်**

**PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR**

**HU PIN COMPANY LIMITED**

**HU PIN HOTEL** INLE KHAUNG DAING VILLAGE RESORT (INLE)

Khaung Daing Village, Nyaung Shwe Township, Southern Shan State, Myanmar.
Tel:(9581) 209291, 209292, 209293, 209294 Fax:(9581) 209291, 209292
E-mail: hupinreservation@gmail.com Website: www.hupinhotelmyanmar.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊

ရက်စွဲ၊ ။ ၂၀၁၆ ခုနှစ်၊ မတ် လ ( ) ရက်။

**အကြောင်းအရာ။** **။<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ပြုပြင်ပြီးအဆိုပြုချက်များ ပြန်လည်ပေးပို့ခြင်း။</u>**

ရည်ညွှန်းချက်။ ။(၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂–၂–၂၀၁၆ နေ့စွဲပါ စာအမှတ် ရက–၄/မ–၁၅၁၉/၂၀၁၆(၀၃၉)

(၂))မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉–၂–၂၀၁၆ နေ့စွဲပါ စာအမှတ် ရက–၄/မ–၁၅၁၉/၂၀၁၆(၁၈၉–ခ)

(၃)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃–၂–၂၀၁၆ နေ့စွဲပါ စာအမှတ် ရက–၄/မ–၁၅၁၉/၂၀၁၆(၂၈၂)

(၄)ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ၂၇–၂–၂၀၁၆ နေ့စွဲပါ စာအမှတ် ၂၇၃၁/၃–၂/၂၀၁၆/အစရ(ရှမ်း)

ကျွန်မတို့၏ **Hu Pin Company Limited.** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် ၆ရ၊ ခေါင်တိုင်ရွာကွင်း၊ မြေအကျယ် (၁၂.၀၇)ဧက ပေါ်တွင် နိုင်ငံတကာအဆင့်မီအဆင့်မြင့်ဟိုတယ်တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်နိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

အထက်ရည်ညွှန်းချက်ပါစာများဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ပေးပို့လာသည့် ၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန နှင့် ရှမ်းပြည်နယ်အစိုးရရုံးတို့မှ သဘောထားမှတ်ချက်များနှင့်အညီ လိုအပ်သလို ပြန်လည်ပြင်ဆင်မှုများပြုလုပ်၍ ရိုသေလေးစားစွာဖြင့် ပြန်လည်တင်ပြအပ်ပါသည်။

တစ်ဖက်သို့ –

(က) စီမံကိန်းလုပ်ငန်းများဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများ လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများနှင့် အစီအမံများကို ထည့်သွင်းအသုံးပြုဆောင်ရွက်သွားပါမည်။ လူမှုရေးအကျိုးပြုလုပ်ငန်းများ (Corporate Social Responsibllity-CSR) အတွက် လုပ်ငန်းအသားတင်အမြတ်၏ ၁ % ကိုအသုံးပြုသွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

(ခ) လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် အတွက် ပတ်ဝန်းကျင်ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ကို NeoTach Myanmar Company Limtied. ဖြင့် လုပ်ငန်းဆောင်ရွက်လျက်ရှိပါသည်။

(ဂ) ဆောင်ရွက်မည့်အစီရင်ခံစာကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်/အစိုင်အခဲ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) များရေးဆွဲတင်ပြသွားမည်ဖြစ်ကြောင်းနှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

(ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ သစ်တောဥပဒေ၊ တောရိုင်းတိရစ္ဆာန်နှင့် သဘာဝအပင်များကာကွယ်ရေးနှင့် သဘာဝနယ်မြေများ ထိန်းသိမ်းရေးဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ စည်ပင်သာယာရေးဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့် ခရီးသွားလုပ်ငန်း ဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

(င) ကုမ္ပဏီမှ အသစ်ငှားရမ်းမည့် **Superior Room** အတွက် တစ်ခန်းလျှင် အမေရိကန်ဒေါ်လာ(၆၀) နှင့် **Cottage Room** တစ်ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၂၀) ငှားရမ်းမည့်နှုန်းထား နှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများကိုလည်း လျော်ကန်သင့်တင့်ရန် ဆောင်ရွက်သွားပါမည်။

(စ) အိပ်ခန်းအရေအတွက်နှင့် အချိုးညီ ဝန်ထမ်းများခန့်အပ်ပြီး ဝန်ထမ်းအားလုံး လုပ်ငန်းဆိုင်ရာသင်တန်းဆင်းလက်မှတ်များ ရရှိရန်ဆောင်ရွက်သွားပါမည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်သော ရေဆိုးအမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှုစနစ်များအား စနစ်တကျ စီမံဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်။

ရို သေ လေး စား စွာ ဖြင့်

( ဒေါ်ကြူကြူသင်း )

အုပ်ချုပ်မှုဒါရိုက်တာ

**HU PIN COMPANY LIMITED.**

HU PIN HOTEL INLE KHAUNG DAING VILLAGE RESORT (INLE)
Khaung Daing Village, Nyaung Shwe Township, Southern Shan State, Myanmar.
Tel:(9581) 209291, 209292, 209293, 209294 Fax:(9581) 209291, 209292
E-mail: hupinreservation@gmail.com Website: www.hupinhotelmyanmar.com

# ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်

## Environmental Management Plan

ကျွန်ုပ်တို့၏ **HU PIN COMPANY LIMITED.** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီအဆင့်မြင့်ဟိုတယ် တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှု မဖြစ်စေရေးနှင့် ထိခိုက်မှုရှိပါကလည်း အနည်းဆုံးဖြစ်စေရေးအတွက် အောက်ပါအတိုင်း စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

(၁) ဟိုတယ်ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိသော ဖုန်မှုန့်၊ သဲမှုန့်များအနေနှင့် လေထုညစ်ညမ်းမှုအား ယာယီဖြစ်စေနိုင်သော်လည်း ထွက်ရှိသော မြေစာများအား အခြားမြေဖို့ရန် လိုအပ်သည့် မြေနေရာများတွင် စွန့်ပစ်သွားမည်ဖြစ်ပါသည်။

(၂) ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ပေါ်လာမည့် အသံဆူညံမှုများကြောင့် လူထု/ပတ်ဝန်းကျင်အပေါ် ထိခိုက်မှုနည်းစေရန် နေ့အချိန်တွင်သာ ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ စီမံကိန်းအတွင်း အသုံးပြုသော ယာဉ်နှင့်စက်ပစ္စည်းများ၏အန္တရာယ် မဖြစ်ပေါ်စေရန်လည်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းခွင်နှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းမှ ထွက်ပေါ်လာမည့် ရေဆိုးများအား WHO (ကမ္ဘာ့ကျန်းမာရေးအဖွဲ့အစည်း) နှင့် ဒေသဆိုင်ရာမှ သတ်မှတ်ပြဋ္ဌာန်းထားသည့် စွန့်ပစ်ရေသန့်စင်ခြင်းဆိုင်ရာ စည်းကမ်းချက်များအတိုင်း နောက်ဆုံးပေါ်စက်ပစ္စည်းကိရိယာများသုံးစွဲ၍ ပတ်ဝန်းကျင်ထိခိုက်မှု နည်းနိုင်သမျှနည်းစေရန် ပြန်လည်သန့်စင်ပြီး Landscaping နှင့် Garden လုပ်ငန်းများတွင် ပြန်လည်သုံးစွဲသွားမည်ဖြစ်ပါသည်။

(၄) ဟိုတယ်လုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများ၊ အရည်နှင့် စွန့်ပစ်အခဲများအား ပတ်ဝန်းကျင်သို့ တိုက်ရိုက်စွန့်ပစ်ခြင်းမရှိပဲ စွန့်ပစ်ပစ္စည်းများအား အမျိုးအစားများ (ဥပမာ – Recycle Kitchen Waste, Paper Waste စသည်ဖြင့်) ခွဲခြားသတ်မှတ်ပြီးမှသာ သက်ဆိုင်ရာ စည်ပင်သာယာရေးအဖွဲ့နှင့်ဆက်သွယ်၍ စနစ်တကျစွန့်ပစ်သွားမည်ဖြစ်ပါသည်။

(၅) ဆောက်လုပ်ရေးလုပ်ငန်းခွင်နှင့် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းမှ ထွက်ပေါ်လာမည့် အသံနှင့်အလင်းရောင်တို့ကြောင့် ပတ်ဝန်းကျင်ရှိ ငှက်မျိုးစိတ်များနှင့် အခြား ကုန်းနေ/ရေနေသတ္တဝါတို့အား အနှောက်အယှက်မဖြစ်ပေါ်စေရေးအတွက်ထည့်သွင်းစဉ်းစား ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၆) ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်ပေါ်စေရန် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေနှင့် အခါအားလျော်စွာ ထုတ်ပြန်သည့် ဒေသဆိုင်ရာ ညွှန်ကြားချက်များအတိုင်း အထူးအလေးပေး လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

တစ်ဖက်သို့ –

(၇) မိမိလုပ်ငန်းမှ ရရှိသည့် အကျိုးအမြတ်၏ (၁)% အား လူမှုရေးဆိုင်ရာတာဝန်ခံမှုများ (**Corporate Social Responsibility**) အတွက် ဒေသအတွင်းရှိ အခြားဟိုတယ်များနှင့် ပူးပေါင်း၍ အောက်ပါအတိုင်း အသုံးပြုသွားမည်ဖြစ်ပါသည်။

(က) ဟိုတယ်အနီးရှိ ဒေသအတွင်း ကျေးရွာများရှိ စာသင်ကျောင်းများမှ ကျောင်းဆရာ/ဆရာမများ၏ သင်ကြားမှု အထောက်အကူပြုသင်တန်းများသို့ တက်ရောက်လေ့လာစေခြင်းစသည့် လုပ်ငန်းများတွင် မိမိအသုံးပြုမည့် (**CSR**) ငွေပမာဏ၏ (၂၅)% ကိုလည်းကောင်း၊

(ခ) အဆိုပါစာသင်ကျောင်းများမှ ကျောင်းသားကျောင်းသူများအတွက် စာရေးကိရိယာထောက်ပံ့ခြင်းနှင့် ကျန်းမာရေး အထောက်အကူပြုအဟာရကျွေးမွေးခြင်းလုပ်ငန်းများအတွက် မိမိအသုံးပြုမည့် (**CSR**) ငွေပမာဏ၏ (၂၅)% ကိုလည်းကောင်း၊

(ဂ) ဒေသအတွင်း စာသင်ကျောင်းများနှင့် ကျေးရွာများ မီးရရှိရေးအတွက် မိမိအသုံးပြုမည့် (**CSR**) ငွေပမာဏ၏ (၂၀)% ကိုလည်းကောင်း၊

(ဃ) ဟိုတယ်အနီးရှိ ကျေးရွာများတွင် မီးသတ်သင်တန်းများ ပို့ချခြင်း၊ မီးသတ်ကိရိယာများထောက်ပံ့ခြင်း၊ မီးဘေးကြိုတင်ကာကွယ်ရန် ရေဂါလံ(၅၀၀၀)ဆံ့ ရေကန်တစ်ခုစီနှင့် မီးသတ်မျှော်စင် တည်ဆောက်ခြင်း လုပ်ငန်းများအတွက် မိမိအသုံးပြုမည့် (**CSR**) ငွေပမာဏ၏ (၃၀)% ကိုလည်းကောင်း၊ အသီးသီးအသုံးပြုသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ရို သေ လေး စား စွာ ဖြင့်

( ဒေါ်ကြူကြူသင်း )
အုပ်ချုပ်မှုဒါရိုက်တာ
**HU PIN COMPANY LIMITED.**

**NeoTech Myanmar Co., Ltd.**

No. (218), Ward (34), Tabin Shwe Hti Rd., New Dagon (North), Yangon, Myanmar

Ph. 09-5026223, 01-584126 Email: neotechmyanmar3@gmail.com

စာအမှတ် ။ ။ MMMD/ENV2/2/2016

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ် ၊ ဖေဖော်ဝါရီလ (၂၀)ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ ။ **Hu Pin Co., Ltd. ၏ Inlay Khaung Daing (Hu Pin Hotel) အမည်ဖြင့် နိုင်ငံတကာ အဆင့်မီဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအတွက် Initial Environmental Examination-IEE နှင့် Environmental Management Plan-EMP ပြုလုပ်ခြင်းနှင့်ပတ်သက်၍ အစီရင်ခံတင် ပြ ခြင်း ။**

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ Hu Pin Co., Ltd. သည် ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ် ၊ခေါင်တိုင်ကျေးရွာအုပ်စု၊အကွက်အမှတ်(၆၇)-ခေါင်တိုင်ရွာကွင်းရှိ အင်းလေး ခေါင်တိုင် ဟူပင်ဟိုတယ်မြေ (၁၂.၀၇)ဧက တွင် Hu Pin Co., Ltd. ၏ Inlay Khaung Taing (Hu Pin Hotel) အမည်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း အတွက် NeoTech Myanmar Co., Ltd. အား Initial Environmental Examination-IEE နှင့် Environmental Management Plan-EMP ပြုလုပ်ရန် ( ၂၀၊ ၂၊ ၂၀၁၆ )ရက်နေ့တွင် လုပ်ငန်း အပ်နှံခဲ့ပါသည် ။

၂။ အဆိုပါ ကိစ္စနှင့်ပတ်သက်ပြီး NeoTech Myanmar Co., Ltd. မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာပညာရှင်များသည် ( ၂၀၊ ၂၊ ၂၀၁၆ ) ရက်နေ့မှ စတင်၍ ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ်(၆၇)-ခေါင်တိုင်ရွာကွင်းရှိ အင်းလေး ခေါင်တိုင်ဟူပင်ဟိုတယ်မြေ (၁၂.၀၇)ဧက နှင့်ဆက်စပ်လျှက်ရှိသော အနီး

# NeoTech Myanmar Co., Ltd.

**No. (218), Ward (34), Tabin Shwe Hti Rd., New Dagon (North), Yangon, Myanmar**

**Ph. 09-5026223, 01-584126 Email: neotechmyanmar3@gmail.com**


ပတ်ဝန်းကျင်ဒေသများတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ သုတေသန စမ်းစစ် ချက်များ စတင်ပြုလုပ်နေပါသည်။

၃။ သို့ဖြစ်ပါ၍ Initial Environmental Examination-IEE report (IEE report) နှင့် Environmental Management Plan report (EMP report) အား ၂၀၁၆ခုနှစ်၊ မေလတတိယပတ်တွင်ပြီးစီးနိုင်မည်ဖြစ်ပါကြောင်း အစီရင်ခံတင်ပြအပ် ပါသည်။

လေးစားစွာဖြင့်




ZinMin

ဒေါက်တာ ဇင်မင်း

Managing Director

NeoTech Myanmar Co., Ltd.

မိတ္တူကို

Hu Pin Co., Ltd.

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၀၃(ခ)(၁)/( ၀၇၁ /၂၀၁၆)
ရက်စွဲ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာတွင် ဟိုတယ်လုပ်ငန်းဆောင်ရွက်လျက်ရှိသည့် အင်းလေးခေါင်တိုင် ( ဟူပင်ဟိုတယ်) သို့ မြေ(၁၂.၀၇)ဧက ငှားရမ်းခွင့်ပြုပါရန်ကိစ္စ**

ရည် ညွှန်း ချက်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊နိုင်ငံတော်သမ္မတရုံး၏ ၈-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၁၃(၁)/၇/သမ္မတရုံး

၁။ ၂၀၁၁ ခုနှစ် ၊ ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်၏(၁/၂၀၁၁) ကြိမ်မြောက်အစည်းအဝေးတွင် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနထံမှ လုပ်ငန်းရှင် ဒေါ်ကြူကြူသင်းက ရှမ်းပြည်နယ် ၊ တောင်ကြီးခရိုင် ၊ ညောင်ရွှေမြို့နယ် ၊ ခေါင်တိုင်ကျေးရွာရှိ အင်းလေးခေါင်တိုင် ဟူပင်ဟိုတယ်(အင်းလေးရေပူစမ်းမပါ) မြေ(၃၀.၈၂)ဧကကိုဝယ်ယူခဲ့ပြီး၂၀၁၁ခုနှစ်တွင် ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်၏ (၄/၂၀၁၂) ကြိမ်မြောက် အစည်းအဝေးမှအင်းလေးခေါင်တိုင် (ဟူပင်ဟိုတယ်)၏ မြေအား (၁၈.၀၇)ဧကသို့ ပြင်ဆင်သတ်မှတ်ခဲ့ခြင်းကြောင့် မူလဝယ်ယူစဉ်ကပါရှိသော နိုင်ငံတော်ဧည့်ဂေဟာ အဖြစ်ဆောင်ရွက်ခဲ့သည့် အဆောက်အဦနှင့်ရေပေါ်ဆောင်အဆောက်အဦများပါဝင်သည့် မြေ(၁၂.၀၇) ဧကသည် အင်းလေးကန်ဘေးမဲ့တောအတွင်း ကျရောက်ပါဝင်သဖြင့် မြေငှားရမ်းခွင့်ပြုပါရန်လျှောက်ထားချက်အပေါ် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ၊ နိုင်ငံတော်သမ္မတရုံးမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်သွားရန်၊ ရည်ညွှန်းချက်ပါစာဖြင့် ခွင့်ပြုခဲ့ပါသည်။

၂။ အဆိုပါ လျှောက်ထားသည့် မြေ(၁၂.၀၇) ဧကသည် အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တောဧရိယာအတွင်း ကျရောက်ပြီး သစ်တောရေးရာဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၁၀-၃-၂၀၁၁ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၁၇၅/၂၀၁၁) အရ သဘာဝနယ်မြေအဖြစ်မှ ပယ်ဖျက်ခွင့်ပြုပေးခဲ့သော ယခင်တည်ထောင်ပြီးဟိုတယ်(၁၂)ခု၏ဧရိယာ (၁၃၄.၈၈)ဧကတွင် အင်းလေးခေါင်တိုင်(ဟူပင်) ဟိုတယ်၏ မြေဧရိယာ(၁၉.၅၀)ဧကအပါအဝင်ဖြစ်ပါသည်။

၃။ မူလအင်းလေးခေါင်တိုင် (ဟူပင်ဟိုတယ်) ၏ မြေဧရိယာကို ပုဂ္ဂလိကပိုင်ပြုလုပ်ရေးကော်မရှင်မှ(၁၉.၅)ဧကသို့ ပြင်ဆင်သတ်မှတ်ခဲ့ပြီး၊ ကျန်ရှိသည့်(၁၂.၀၇)ဧကသည် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေဖြစ်ခြင်း ၊ ဝယ်ယူ

ထားသည့် မြေနေရာ(၁၉.၅၀)ဧကနှင့် တစ်ဆက်တစ်စပ်တည်းရှိခြင်း၊ အင်းလေးရေပြင်ပိုင်းတွင် ဖြစ်ပြီး ဒေသခံပြည်သူများ၏ မြေနှင့်ထိစပ်မှုမရှိခြင်းတို့ကြောင့် နှစ်ရှည်မြေငှားရမ်းခြင်း စာချုပ်ဖြင့် ငှားရမ်းခွင့်ပြု မည်ဖြစ်ပါသည်။

၄။ အဆိုပါ အင်းလေးခေါင်တိုင် (ဟူပင်ဟိုတယ်)မှ ငှားရမ်းခွင့်ရရှိသည့် မြေ(၁၂.၀၇) ဧကအား နှစ်ရှည်မြေငှားစာချုပ်ချုပ်ဆိုရန် စာချုပ် ( မူကြမ်း ) ပါ အချက်အလက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ငှားရမ်းမည့်မြေ | (၁၂.၀၇)ဧက |
| (ခ) | ငှားရမ်းကာလ | ကနဦး(၅၀)နှစ်နှင့်သက်တမ်းတိုးမြှင့်ခြင်း (၁၀)နှစ်သက်တမ်း(၂)ကြိမ် |
| (ဂ) | မြေငှားခပရီမီယံကြေး | မြေတစ်ဧက ကျပ် ၅၀၀၀၀ (ကျပ်ငါးသောင်းတိတိ) |
| (ဃ) | မြေငှားရမ်းခ | မြေတစ်ဧကတစ်နှစ်ကျပ် ၂၀၀၀၀၀ (ကျပ်နှစ်သိန်းတိတိ) |
| (င) | လုပ်ငန်းအဆိုပြုသူအမည် | ဒေါ်ကြူကြူသင်း၊ အုပ်ချုပ်မှုဒါရိုက်တာ |
| (စ) | လုပ်ငန်းအမျိုးအစား | နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုတန်ဘိုး | ကျပ်သန်း ၃၀၀၀(ကျပ်သန်းသုံးထောင်တိတိ) |
| (ဇ) | ကုမ္ပဏီအမည် | HU PIN COMPANY LIMITED |
| (ဈ) | ဟိုတယ်အမည် | အင်းလေးခေါင်တိုင်(ဟူပင်ဟိုတယ်) |

၃။ သို့ဖြစ်ပါ၍ HU PIN COMPANY LIMITED ၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ လုပ်ငန်းအဆိုပြုချက်တင်ပြလွှာ၊ စာချုပ် (မူကြမ်း) ၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုစာတို့ကို ပူးတွဲလျှက်တင်ပြအပ်ပါသည်။

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

D:\2016\JANUARY\HHW(TC) 2.DOCX6

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၀၃(ခ)(၁)/( ၃၅၄၆ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂၂ ရက်

အကြောင်းအရာ။ မြေနေရာငှားရမ်းခွင့်ကိစ္စ

ရည်ညွှန်းချက် ။ ဤပြည်ထောင်စုဝန်ကြီးရုံး၏ ၂၁-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊၃(၂) / ၁၈ (က)(၁) / (၂၅၂၂ / ၂၀၁၅)

ရှမ်းပြည်နယ်၊ တောင်ကြီးခရိုင်၊ ခေါင်တိုင်ကျေးရွာရှိ မြေ (၁၂.၀၇) ဧကကို အင်းလေး ခေါင်တိုင် (ဟူပင်) ဟိုတယ်သို့ မြေအသုံးချမှု ပရီမီယံကြေး တစ်ဧကလျှင် ငွေကျပ်(၅၀,၀၀၀) နှုန်းဖြင့်လည်းကောင်း၊ မြေတစ်ဧကလျှင် တစ်နှစ်ငှားရမ်းခနှုန်း ငွေကျပ် (၂၀၀,၀၀၀) ဖြင့် လည်းကောင်း ငှားရမ်းကာလ နှစ်(၅၀) ငှားရမ်းခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြခြင်းအပေါ် နိုင်ငံတော်သမ္မတရုံးမှ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ (၈) ရက်စွဲပါ စာအမှတ်၊ ၁၃(၁)/၇/သမ္မတရုံး ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားလာသောစာကို ပြည်ထောင်စုဝန်ကြီး၏ မိန့်မှတ်ချက်အရ ဆောင်ရွက်နိုင်ရန် စာမိတ္တူတစ်စောင်ကို ပူးတွဲ ပေးပို့ အပ်ပါသည်။

၂၂/၁၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွှန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

D:\(HHW)(2015)\(TC)(1.12.2015).docx20

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**နိုင်ငံတော်သမ္မတရုံး**

စာအမှတ်၊ ၁၃ (၁) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၈ ရက်

သို့

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

အကြောင်းအရာ။ **မြေနေရာငှားရမ်းခွင့်ကိစ္စ**

ရည် ညွှန်း ချက် ။ ယင်း၏ ၂၁ - ၉ -၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၃ (၂)/ ၁၈ (က) (၁) / (၂၅၂၂/ ၂၀၁၅)

ရှမ်းပြည်နယ် ၊ တောင်ကြီးခရိုင် ၊ ညောင်ရွှေမြို့နယ် ၊ ခေါင်တိုင်ကျေးရွာရှိ မြေ (၁၂.၀၇) ဧကကို အင်းလေးခေါင်တိုင်(ဟုပင်) ဟိုတယ်သို့ မြေအသုံးချမှုပရီမီယံကြေး တစ်ဧကလျှင် ငွေကျပ် (၅၀,၀၀၀) နှုန်းဖြင့်လည်းကောင်း၊ မြေတစ်ဧကလျှင် တစ်နှစ်ငှားရမ်းခနှုန်း ငွေကျပ် (၂၀၀,၀၀၀) ဖြင့်လည်းကောင်း ငှားရမ်းကာလ နှစ် (၅၀) ငှားရမ်းခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

- သမ္မတဦးစီးရုံး
- ဒုတိယသမ္မတဦးစီးရုံးများ
- ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
- သမ္မတရုံးဝန်ကြီးဌာန(၃)
- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်



\\Spdc\D\2015\Dec\Dec 8\13-1.Docx

HU PIN HOTEL
INLE KHAUNG DAING VILLAGE RESORT (INLE)
Khaung Daing Village, Nyaung Shwe Township, Southern Shan State, Myanmar.
Tel:(9581) 209291, 209292, 209293, 209294 Fax:(9581) 209295
E-mail:hupinreservation@gmail.com ; Website: www.hupinhotelmyanmar.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ( ၁၉ ) ရက်။

**အကြောင်းအရာ။** ။**<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။</u>**

ကျွန်မတို့၏ **HU PIN COMPANY LIMITED.** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စုတွင် နိုင်ငံတကာအဆင့်မီ အဆင့်မြင့်ဟိုတယ်တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းလုပ်ကိုင်နိုင်ရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်မတို့၏အဆိုပြုလွှာကို လိုအပ်သလိုစိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ ( ၂၀ ) စုံကို ပေးပို့တင်ပြအပ်ပါသည်။

ရို သေ လေး စား စွာ ဖြင့်

( ဒေါ်ကြူကြူသင်း )
အုပ်ချုပ်မှုဒါရိုက်တာ
**HU PIN COMPANY LIMITED.**

HU PIN HOTEL
INLE KHAUNG DAING VILLAGE RESORT (INLE)

Khaung Daing Village, Nyaung Shwe Township, Southern Shan State, Myanmar.
Tel:(9581) 209291, 209292, 209293, 209294 Fax:(9581) 209291, 209292
E-mail: hupinreservation@gmail.com Website: www.hupinhotelmyanmar.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၉) ရက်။

**အကြောင်းအရာ။** **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက် ၍ ကတိခံဝန်ချက်များ ပေးပို့ခြင်း။**

ကျွန်မတို့၏ **HU PIN COMPANY LIMITED.** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စုတွင် နိုင်ငံတကာ အဆင့်မီအဆင့်မြင့်ဟိုတယ်တည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်နိုင်ရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။
ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှမည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်းနှင့် အောက်ပါအချက်များကိုလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၁။ ကျွန်မတို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်းပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင် ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

၃။ အလုပ်သမားများ၏လစာဝင်ငွေ တစ်နှစ်လျှင် ၂၀၀၀၀၀၀/- ကျော်ပါက ဝင်ငွေခွန်ကို တည်ဆဲဥပဒေအရ ဖြတ်တောက်၍ အခွန်ဌာနသို့ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၄။ မဟာဓါတ်အားလိုင်းမှလျှပ်စစ်မရရှိပါက ကိုယ်ပိုင်မီးစက်ဖြင့် ဆောင်ရွက်သွားပါမည်။

၅။ ယခုအဆိုပြုတင်ပြသည့်လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

( ဒေါ်ကြူကြူသင်း )
အုပ်ချုပ်မှုဒါရိုက်တာ
**HU PIN COMPANY LIMITED.**

**HU PIN HOTEL**
INLE KHAUNG DAING VILLAGE RESORT (INLE)

Khaung Daing Village, Nyaung Shwe Township, Southern Shan State, Myanmar.
Tel:(9581) 209291, 209292, 209293, 209294 Fax:(9581) 209291, 209292
E-mail: hupinreservation@gmail.com Website: www.hupinhotelmyanmar.com

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ( ၁၉ ) ရက်။

**အကြောင်းအရာ။** **။<u>ပြည်ထောင်စု မြန်မာနိုင်ငံတော်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့်သက်သာခွင့် များ လျှောက်ထားခြင်း။</u>**

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်မတို့၏ **HU PIN COMPANY LIMITED.** သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ ခေါင်တိုင်ကျေးရွာအုပ်စု၊ အကွက်အမှတ် ၆၇-ခေါင်တိုင်ရွာကွင်း မြေအကျယ် ၁၂.၀၇ ဧကရှိမြေနေရာတွင် နိုင်ငံတကာအဆင့်မီ အဆင့်မြင့်ခေတ်မီဟိုတယ်တည်ဆောက်ပြီး လုပ်ငန်းလုပ်ကိုင်ရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီ ဖြစ်ပါသည်။

ကျွန်မတို့ကုမ္ပဏီလီမိတက်သည် နိုင်ငံတကာအဆင့်မီအဆင့်မြင့်ခေတ်မီဟိုတယ် တည်ဆောက်ရန်အတွက် နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်းသုံးအလှဆင်ပစ္စည်းများကို နိုင်ငံခြားမှမှာယူတင်သွင်းခြင်းမပြုပဲ ပြည်တွင်းမှပင် ဝယ်ယူအသုံးပြုသွားပါမည်။

ကျွန်မတို့၏ကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးငွေစုစုပေါင်း ကျပ်(၃၀၀၀)သန်းကို မြန်မာနိုင်ငံကျပ်ငွေ၊ ခေတ်မီဟိုတယ်အဆောက်အအုံများဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြပါမည်။ ဟိုတယ်လုပ်ငန်းမှ ရရှိလာသောအမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်းအခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံတွင် ခေတ်မီဟိုတယ်လုပ်ငန်းတိုးတက်ဖွံ့ဖြိုးလာစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများစီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်းအလို့ငှာလည်းကောင်း၊ ကျွန်မတို့ **HU PIN COMPANY LIMITED.** ၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန် နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်များနှင့်သက်သာခွင့်များကိုလည်းပေးပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

၁။ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ပါရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊

၂။ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊

၃။ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

၄။ ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

ရို သေ လေး စား စွာ ဖြင့်

( ဒေါ်ကြူကြူသင်း )
အုပ်ချုပ်မှုဒါရိုက်တာ
HU PIN COMPANY LIMITED.

HU PIN HOTEL INLE KHAUNG DAING VILLAGE RESORT (INLE)
Khaung Daing Village, Nyaung Shwe Township, Southern Shan State, Myanmar.
Tel:(9581) 209291, 209292, 209293, 209294 Fax:(9581) 209291, 209292
E-mail: hupinreservation@gmail.com Website: www.hupinhotelmyanmar.com

# ဝန်ထမ်းများသက်သာချောင်ချိရေး နှင့် သာယာပျော်ရွှင်ရေးတင်ပြချက်များ။

၁။ အလုပ်သမားများ၏လစာကို အမှန်တကယ်ဖြစ်ပေါ်လျက်ရှိသောကာလပေါက်ဈေးနှုန်းများဖြင့် တွက်ချက်ပေးသွားပါမည်။

၂။ ဝန်ထမ်းများ၏လစာအပြင် ရက်မှန်ကြေး၊ ရက်ပိုကြေးများပေးအပ်ခြင်း၊ နှစ်သစ်ကူးကာလများတွင် ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်းများကို ပြုလုပ်ပေးသွားပါမည်။

၃။ အလုပ်သမားများ၏ အလုပ်လုပ်ချိန်ကိုလည်း မြန်မာနိုင်ငံအလုပ်သမားများညွှန်ကြားမှုဦးစီးဌာနက တရားဝင်ပြဌာန်းထားသည့် တစ်နေ့အလုပ်ချိန် ၈-နာရီ သတ်မှတ်ထားပါသည်။

၄။ အလုပ်သမားများ၏ ကျန်းမာရေးအတွက် ဆရာဝန်များ၊ ကျန်းမာရေးစစ်ဆေးရေးမှူးများ၊ ကိုခန့်အပ်၍ အချိန်မှန် စစ်ဆေးစေခြင်းများကို ပြုလုပ်ပေးပါမည်။

၅။ အလုပ်သမားများသက်သာချောင်ချိရေးအတွက် နားနေခန်း၊ စားသောက်ခန်းများကိုလည်း ထားရှိသွားမည် ဖြစ်ပါသည်။

လေး စား စွာ ဖြင့်

(signature)

( ဒေါ်ကြူကြူသင်း )
အုပ်ချုပ်မှုဒါရိုက်တာ
HU PIN COMPANY LIMITED.

**HU PIN HOTEL** INLE KHAUNG DAING VILLAGE RESORT (INLE)

Khaung Daing Village, Nyaung Shwe Township, Southern Shan State, Myanmar.
Tel:(9581) 209291, 209292, 209293, 209294 Fax:(9581) 209291, 209292
E-mail: hupinreservation@gmail.com Website: www.hupinhotelmyanmar.com

## ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအစီအစဉ်တင်ပြခြင်း။

ကျွန်မတို့၏ HU PIN COMPANY LIMITED. သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီအဆင့်မြင့်ဟိုတယ်တည်ဆောက်၍ လုပ်ငန်းလုပ်ကိုင်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အတွက် ဟိုတယ်မြေနေရာအတွင်း သန့်စင်ခန်းများထားရှိခြင်း အမှိုက်ပုံးများထားရှိခြင်း၊ ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ဟိုတယ်လုပ်ငန်းမှ ထွက်ရှိလာမည့် ဘေးထွက်စွန့်ပစ်ပစ္စည်းများအား သတ်မှတ်ချက်နှင့်အညီစွန့်ပစ်ခြင်း၊ ရေဆိုးများအား သန့်စင်အောင် နိုင်ငံတကာမှသတ်မှတ်ထားသောစံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ပြီးမှသာ စွန့်ပစ်ခြင်း၊ အမှိုက်များကို စနစ်တကျစွန့်ပစ်ခြင်း၊ နှင့် သက်ဆိုင်ရာအဖွဲ့အစည်းများမှ ချမှတ်ထားသော စည်းမျဉ်း၊ စည်းကမ်း၊ များကို လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

ရိုသေလေးစားစွာဖြင့်

( ဒေါ်ကြူကြူသင်း )
အုပ်ချုပ်မှုဒါရိုက်တာ
HU PIN COMPANY LIMITED.

**HU PIN HOTEL**

INLE KHAUNG DAING VILLAGE RESORT (INLE)

Khaung Daing Village, Nyaung Shwe Township, Southern Shan State, Myanmar.
Tel:(9581) 209291, 209292, 209293, 209294 Fax:(9581) 209291, 209292
E-mail: hupinreservation@gmail.com Website: www.hupinhotelmyanmar.com

---

## မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်တင်ပြခြင်း။

ကျွန်မတို့၏ **HU PIN COMPANY LIMITED.** အနေဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်တွင် နိုင်ငံတကာအဆင့်မီအဆင့်မြင့်ခေတ်မီဟိုတယ်တည်ဆောက်လုပ်ကိုင်ရာတွင် ခေတ်မီမီးငြိမ်းသတ်နည်းစနစ်များကို ထည့်သွင်းအသုံးပြု၍ ဟိုတယ်တည်ဆောက်သွားမည်ဖြစ်ကြောင်း နှင့် ဟိုတယ်မြေနေရာတွင် မီးဘေးကြိုတင်ကာကွယ်မှုအနေဖြင့် ရေဂါလံ (၅၀၀၀) ဆံ့ ရေကန်တစ်ခု တည်ဆောက်ထားရှိပါမည်။

ဟိုတယ်မြေနေရာအတွင်း ထောင့်တစ်ဘက်စီတွင် အမြင့်ပေ(၃၀) ရှိမျှော်စင်(၂)ခုတည်ဆောက်ထားရှိ၍ မီးကင်းစောင့် ခန့်အပ်ထားရှိပါမည်။ ထိုအပြင်ဟိုတယ်အတွင်းတွင် မီးသတ်ဆေးဗူးများချိတ်ဆွဲထားရှိမည့်အပြင် မီးချိတ်၊ မီးပြားများကိုလည်း ထားရှိမည်ဖြစ်ပါသည်၊ ဟိုတယ်ဝန်ထမ်းများအား မီးသတ်သင်တန်းများသို့ စေလွှတ်သွားမည်ဖြစ်ပါသည်၊

ရို သေ လေး စား စွာ ဖြင့်

( ဒေါ်ကြူကြူသင်း )
အုပ်ချုပ်မှုဒါရိုက်တာ
**HU PIN COMPANY LIMITED.**

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပြည်ထောင်စုရှေ့နေချုပ်ရုံး

နေပြည်တော်

စာအမှတ်၊ ၂(၅)၃ - ၆၀/ နပတ( ၃၉၄ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ ဧပြီလ ၂၇ ရက်

အကြောင်းအရာ။ သစ်တောဦးစီးဌာနနှင့် လုပ်ငန်းရှင် ဒေါ်ကြူကြူသင်းတို့အကြား အင်းလေး ခေါင် တိုင်၊ ဟူပင်ဟိုတယ်အတွက် ချုပ်ဆိုမည့်နှစ်ရှည်မြေ ငှားရမ်းခြင်း စာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီး ဌာန၊ ညွှန်ကြားရေးမှူးချုပ်ရုံး၏၁၆-၃-၂၀၁၅ရက်စွဲပါစာအမှတ်၊ ဥယျာဉ်-ဗွေ / အင်းလေး(မြေ)/ ၂၆၄၀/ ၂၀၁၅

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန ပိုင် အင်းလေးကန်ဘေးမဲ့တောအတွင်းရှိ မြေဧရိယာ(၁၂.၀၇)ကေအား ဒေါ်ကြူကြူသင်း (လုပ်ငန်း ရှင်)အင်းလေးခေါင်တိုင်(ဟူပင်) ဟိုတယ်သို့ နှစ်ရှည်မြေငှားရမ်းရေးအတွက် ချုပ်ဆိုမည့် နှစ်ရှည် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ပေးပို့လာသော စာချုပ်(မူကြမ်း) အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်၍ အောက်ပါ အတိုင်းသုံးသပ် အကြံပြုအပ်ပါ သည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် ၁ ရည်ရွယ်ချက်၏အပိုဒ်ခွဲ ၁-၂ တွင် "အငှားချထား ခြင်းခံရသူသည်×××××ဆောက်လုပ်ပြီးဖြစ်သည့်အခန်း(၃၅)ခန်းပါဟိုတယ် ကို နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း"

လျှို့ဝှက်

M-017/E/USTST/Daw Kyu Kyu Thin (25-3-2015)

ဖော်ပြထားပြီး၊ စာချုပ်(မူကြမ်း) အပိုဒ် ၁၂ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများခေါင်းစဉ်အောက်ရှိ အပိုဒ်ခွဲ ၁၂-၁(က) တွင် "အဆိုပါ မြေတွင် အခန်း(၃၅) ခန်းပါနိုင်ငံတကာအဆင့်မီဟိုတယ်ကို ရင်းနှီးမြှုပ်နှံမှု ပမာဏ မြန်မာကျပ်ငွေကျပ်သန်း(၃၀၀၀)ဖြင့် တည်ဆောက်ပြီး ဟိုတယ် လုပ်ငန်းကိုလုပ်ကိုင်ရမည်" ဟု ဖော်ပြထားရာ ရှင်းလင်းမှုမရှိ၍ ဌာနမှ ပြန်လည် စိစစ်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၏ ရည်ရွယ်ချက်အပိုဒ်တွင် "ပူးတွဲ-ခ" ဟု လည်းကောင်း၊ အပိုဒ် ၃ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း၊ အပိုဒ် ၅ အငှားချထားသည့်မြေ နှင့် မြေငှားရမ်းခြင်းသက်တမ်းကာလတို့တွင် နောက်ဆက်တွဲဟုလည်းကောင်း အမျိုးမျိုးသုံးစွဲထားကြောင်းတွေ့ရှိရပါသည်။သို့ဖြစ်ပါ၍နောက်ဆက်တွဲများ ဟု တစ်ညီတစ်ညွတ်တည်းသုံးစွဲဖော်ပြသင့်ပါသည်။ ဌာနမှပြန်လည် စိစစ် သင့်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)အပိုဒ်၅အငှားချထားသည့်မြေနှင့် မြေငှားရမ်းခြင်းသက်တမ်း ကာလ အပိုဒ် ၅-၁ တွင် ငှားရမ်းသည့်မြေဧရိယာ(၁၂.၀၇) ဧကဟုဖော်ပြထား ပြီး၊ အပိုဒ် ၁၂ အငှားချထားခြင်းခံရသူ၏တာဝန်များအပိုဒ် ၁၂-၁ (ဃ) တွင် ခွင့်ပြုမိန့်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသောမြေနှင့် အဆောက်အအုံများဟု လည်းကောင်းဖော်ပြထားပါသည်။ ငှားရမ်းမည့်ပစ္စည်းတွင် အဆောက်အဦ များပါဝင်ပါက ငှားရမ်းမည့်ပစ္စည်းစာရင်းတွင်ပါရှိသည့် အဆောက်အဦများ ကို ထည့်သွင်းဖော်ပြသင့်ပါသည်။ ထို့ပြင် စာချုပ်မျက်နှာဖုံးနှင့် ခေါင်းစဉ်တို့ အား မြေနှင့် အဆောက်အဦငှားရမ်းခြင်းစာချုပ်ဟု ပြောင်းလဲပြင်ဆင်သင့်ပါ သည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ အငှားချထားခြင်းခံရသူ၏တာဝန်များ အပိုဒ်ခွဲ ၁၂-၁(က)တွင် "အခန်း(၃၅)ခန်းပါနိုင်ငံတကာအဆင့်မီဟိုတယ်×××××တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းကိုလုပ်ကိုင်ရန်"ဟုဖော်ပြထားသော်လည်း ပူးတွဲပါနောက်ဆက်တွဲများတွင်တည်ဆောက်မည့်အဆောက်အအုံအမျိုးအစား၊ ပုံစံ၊ အရေအတွက်၊ အရည်အသွေးအဆင့်သတ်မှတ်ချက်၊ တစ်စုံတစ်ရာပါဝင်ခြင်းမရှိပါ၍ တိကျပြည့်စုံစွာထည့်သွင်း ဖော်ပြရေး ဌာနမှပြန်လည်စိစစ်ရန်လိုအပ်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၁၇ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်းအပိုဒ် ၁၇-၁ တွင် "မြေ ပေါ်ရှိမူလအငှားချထားစဉ်ကမပါရှိသောအဆောက်အဦးများအားလုံးကို အငှား ချထားခြင်းခံရသူ၏ အစီအစဉ်ဖြင့် ရက်ပေါင်း(၉၀)အတွင်း ရှင်းလင်းဖယ်ရှားပြီး၊ အငှားချထားသည့်မြေ(၁၂.၀၇)ဧကကို ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်" ဟုဖော်ပြထားပါသည်။ မူလအငှားချထားစဉ်ကမပါရှိသော အဆောက်အဦးများအားလုံးကို ရှင်းလင်းဖယ်ရှားရေးနှင့်စပ်လျဉ်း၍ဖော်ပြထားရာမြေငှား၍ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခြင်းဖြစ်သဖြင့် အဆောက်အဦးများဖယ်ရှားရန်ဖြစ်နိုင်ခြင်းရှိ မရှိ ဌာနမှပြန်လည်စိစစ်စဉ်းစားသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် ၂၁လျှို့ဝှက်ချက်၊အပိုဒ်ခွဲ ၂၁-၁တွင် "ဟိုတယ်လုပ်ငန်းပိုင်ရှင်" ဟု သုံးစွဲထားသည်ကိုတွေ့ရှိရပါသည်။ စာချုပ်ဝင်များအပိုဒ်တွင် တစ်ဖက်စာချုပ်ဝင်အား "အငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ကြောင်းဖော်ပြထားရာ စာချုပ်ဝင်အပိုဒ်တွင် သုံးစွဲသည့်အတိုင်း တစ်ညီတစ်ညွတ်တည်းသုံးစွဲသင့်ပါသည်။ ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၂၆ အထွေထွေ၊ အပိုဒ် ၂၆-၁ တွင် "ပူးတွဲဖော်ပြထားသောမြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ အဆောက်အဦပုံစံများ၊ အထောက်အထားများစသည့် နောက်ဆက်တွဲများ" ဟူ၍ဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)တွင် ပူးတွဲပါရှိသောနောက်ဆက်တွဲများသည် နောက်ဆက်တွဲ က၊ ခ နှင့် ဂ သာပါရှိပြီး အခြားစာရွက်စာတမ်းများမှာ နောက်ဆက်တွဲအမှတ်စဉ်ဖော်ပြထားခြင်းမရှိကြောင်းတွေ့ရှိရပါသည်။နောက်ဆက်တွဲများသည်စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သဖြင့် စာချုပ်ပါသက်ဆိုင်ရာစည်းကမ်းချက်များအလိုက် နောက်ဆက်တွဲများရည်ညွှန်းဖော်ပြ၍ နောက်ဆက်တွဲများတွင်လည်း အမှတ်စဉ်အက္ခရာများဖော်ပြရေး ဌာနမှ တာဝန်ယူစိစစ်ရန်ဖြစ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) တွင်ပါရှိသော ကွက်လပ်များအား စာချုပ်ချုပ်ဆိုသောအချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ဈ) လိုအပ်သောနေရာအချို့တွင် မင်နီဖြင့် အနည်းငယ် ပြင်ဆင်ပေးလိုက်ပါသည်။

၃။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေ အကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၄။ ဒေါ်ကြူကြူသင်း(လုပ်ငန်းရှင်) အင်းလေးခေါင်တိုင်(ဟူပင်ဟိုတယ်)သည် စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေး အင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် လက်မှတ်ရေးထိုးပိုင်ခွင့်ရှိ မရှိ စသည့်အချက်များနှင့် စပ်လျဉ်း၍ ကြိုတင် စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၅။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန် အတွက် ဤရုံး သို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၆။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

( ကျော်ဆန်း )
ညွှန်ကြားရေးမှူးချုပ်

**ညွှန်ကြားရေးမှူးချုပ်**
**သစ်တောဦးစီးဌာန**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**

မိတ္တူ - ရုံးလက်ခံ / မျှောစာတွဲ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

သစ်တောဦးစီးဌာန

နှင့်

အင်းလေးခေါင်တိုင်(ဟူပင်ဟိုတယ်)

တို့၏

အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော နယ်မြေအတွင်းရှိ

မြေ(၁၂.၀၇)ဧကအား နှစ်ရှည်မြေငှားရမ်းခြင်း

နှစ်ဘက် သဘောတူစာချုပ်(မူကြမ်း)

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ လ ၊ ( )ရက်

ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော ၊ သဘာဝနယ်မြေအတွင်း ဟိုတယ်လုပ်ငန်းဆောင်ရွက်ရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန ၊ သစ်တောဦးစီးဌာနနှင့် အင်းလေးခေါင်တိုင်(ဟူပင်ဟိုတယ်) တို့အကြား ချုပ်ဆိုသည့် နှစ်ရှည်မြေငှားရမ်းခြင်း သဘောတူစာချုပ်

ဤပဋိညာဉ်စာချုပ်(နောင်တွင် "သဘောတူစာချုပ်"ဟုခေါ်ဆိုရမည်)ကို ၂၀၁၆ ခုနှစ်၊ -------------------------လ၊ ( )ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ ၊ နေပြည်တော်၊ ရုံးအမှတ်(၃၉)တွင်တည်ရှိသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနလက်အောက်ရှိ ဒေါက်တာညီညီကျော် ၊ ညွှန်ကြားရေးမှူးချုပ်၊ ကိုယ်စားပြုသော သစ်တောဦးစီးဌာနမှ (နောင်တွင်"အငှားချထားသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ ၊ တရားဝင်ကိုယ်စားလှယ်များ ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူ များပါဝင်သည်ဟု မှတ်ယူရမည်) ကတစ်ဖက်

နှင့်

ရှမ်းပြည်(တောင်ပိုင်း)တောင်ကြီးခရိုင် ၊ ညောင်ရွှေမြို့နယ် ၊ အင်းလေးကန်တောရိုင်း တိရစ္ဆာန်ဘေးမဲ့ တောတွင်ရှိသည့် အင်းလေးခေါင်တိုင် (ဟူပင်ဟိုတယ်)အား ကိုယ်စားပြုသော ဒေါ်ကြူကြူသင်း (ဟိုတယ်ပိုင်ရှင်) (ဤမှနောင်တွင်" အငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ် ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း ၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများ တရားဝင်ကိုယ်စားလှယ်များ ၊ ဥပဒေအရလွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်)က ဤစာချုပ်ကို အခြား တစ်ဖက်တို့သည် သဘောတူစာချုပ်ကို အောက်ပါအတိုင်း စည်းကမ်းချက်များနှင့်အညီပြုလုပ် ချုပ်ဆိုကြပါသည်။

**အပိုဒ်၁- ရည်ရွယ်ချက်**

၁-၁ "အငှားချထားသူ"သည် မိမိတရားဝင်အမည်ပေါက် ပိုင်ဆိုင်သော(၁၂.၀၇)ဧကအား တရားဝင်ပိုင်ဆိုင်သူဖြစ်ပါသည်။ အငှားချထားသည့်မြေနှင့်စပ်လျဉ်း၍ မြေပုံနှင့်မြေပိုင်ဆိုင်မှု အထောက်အထားများကို နောက်ဆက်တွဲ (က) ဖြင့် ပူးတွဲဖော်ပြပါသည်။

၁-၂ "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"ပိုင် မြေပေါ်တွင် ဆောက်လုပ်ပြီးဖြစ်သည့် အခန်း(၃၅)ခန်းပါ ဟိုတယ်ကို နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

**အပိုဒ်-၂ ရင်းနှီးမြှုပ်နှံမှု**

၂-၁ "အငှားချထားခြင်းခံရသူ"သည် အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာကျပ် သန်း ၃၀၀၀(ကျပ်သန်းသုံးထောင်တိတိ)ထည့်ဝင်၍လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။

**အပိုဒ်-၃ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း**

၃-၁ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုး ချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် "အငှားချထားသူ"သည် ငှားရမ်းမည့် (၁၂.၀၇)ဧကကို တရားဝင်ပိုင်ဆိုင်ကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီးရုံး၏ ၂၀-၁၀-၂၀၁၄

ရက်စွဲပါစာအမှတ်၊(၂/၂၂၀)(ခ)(၃)(၉၂၄၄/၂၀၁၄)အရ၊ မြေငှားစာချုပ် ဖြင့် နှစ်ရှည် ငှားရမ်း ရန် ခွင့်ပြုမိန့်ရရှိပြီး ဖြစ်ပါသည်။ (နောက်ဆက်တွဲ - ၈)

၃-၂ “အငှားချထားခြင်းခံရသူ”သည် ဤသဘောတူစာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ကြောင်း အာမခံပါသည်။ အငှားချထားသူနှင့် အငှားချထားခြင်း ခံရသူတို့သည် ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် ဥပဒေအရ လုပ်ပိုင်ခွင့်ရှိသော အခွင့်အာဏာရှိကြသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံကြပါသည်။

အပိုဒ်-၄ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

၄-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာန အာဏာပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ ၊ ခွင့်ပြုမိန့်များရရှိပြီး မှသာ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါ သည်။

အပိုဒ်-၅ အငှားချထားသည့် မြေနှင့် မြေငှားရမ်းခြင်းသက်တမ်းကာလ

၅-၁ အငှားချထားသည့်မြေတည်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ကိုယ်စား ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံခန့်ခွဲပိုင် ခွင့်ရှိသော၊ သဘာဝနယ်မြေတစ်ခုဖြစ်သည့် အင်းလေးကန်တောရိုင်းတိရစ္ဆာန်ဘေးမဲ့တော ဟုသတ်မှတ်ထားသောမြေရှိ နောက်ဆက်တွဲ(က)ဖြင့် ဖော်ပြထားသော မြေပုံတွင်အမှတ်အသား ပြထားသည့် ဘောင်အတွင်းရှိ မြေဧရိယာ(၁၂.၀၇)ဧက ဖြစ်ပါသည်။

၅-၂ ဤသဘောတူစာချုပ်ပါ မြေငှားရမ်းခြင်းသက်တမ်းကာလမှာ မြေငှားစာချုပ်လက်မှတ်ရေးထိုး သည့်နေ့မှ စတင်၍ ကနဦး(၅၀)နှစ်ဖြစ်ပြီး တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် သက်တမ်း(၂)ကြိမ်တိုး ခွင့်ရှိသည်။

၅-၃ အငှားချထားသည့်ကာလတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိ ပြီးမှသာအတည်ဖြစ်သည်။

အပိုဒ်- ၆- ငှားရမ်းသက်တမ်းတိုးခြင်းနှင့် မှတ်ပုံတင်ခြင်း

၆-၁ ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် သက်တမ်းကာလမှာ ၂၀၁၆ ခုနှစ်မှ ၂၀၆၆ ခုနှစ်ထိ (၅၀)နှစ် သက်တမ်းဖြစ်ပြီးသက်တမ်းတိုးခြင်းအား(၁၀)နှစ်(၂)ကြိမ်ထပ်မံတိုးမြှင့်ခွင့်ရှိသည်။

၆-၂ ဤစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ထားရှိရမည်။ သတ်မှတ် ထားသည့် မှတ်ပုံတင်ကြေးကျသင့်ငွေများကို အငှားချထားခြင်းခံရသူမှ ကျခံရမည်။

၆-၃ မှတ်ပုံတင်ကြေးပေးဆောင်ရန် အလို့ငှာသက်ဆိုင်ရာမြို့နယ် စာချုပ်စာတမ်းမှတ်ပုံတင် ရုံးတွင် သတ်မှတ်ထားသည့် မှတ်ပုံတင်ကြေးပေးသွင်းရပါမည်။

အပိုဒ်-၇ စာချုပ်သက်တမ်းတိုးခြင်း

၇-၁ ဤစာချုပ်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့် နေ့မှစ၍ ကနဦး(၅၀) နှစ်ဖြစ်သည်။အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦး သက်တမ်း မကုန်ဆုံးမီ အနည်းဆုံး(၃)လကြိုတင်၍ စာဖြင့်အကြောင်းကြားတင်ပြရမည်။ ကနဦး (၅၀)နှစ်

ငှားရမ်းပြီးနောက်ထပ်သက်တမ်းကာလ တိုးမြှင့်ငှားရမ်းရေးအတွက် နှစ်ဘက်ညှိနှိုင်းဆောင်ရွက်ရမည်။စာချုပ်သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

**အပိုဒ်-၈ အကျိုးသက်ရောက်သည့်နေ့**

၈-၁ ဤသဘောတူစာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်တရားဝင် အတည်ပြု လက်မှတ်ရေးထိုး ချုပ်ဆိုသည့်နေ့မှစတင်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

**အပိုဒ်-၉ မြေအသုံးချမှုပရီမီယံ**

၉-၁ "မြေအငှားချထားခြင်းခံရသူ"သည် မြေအသုံးချမှုအတွက် ပရီမီယံကြေးအဖြစ် မြေတစ် ဧကလျှင် ကျပ် ၅၀၀၀၀ ( ကျပ်ငါးသောင်းတိတိ ) နှုန်းဖြင့် မြေ(၁၂.၀၇)ဧက အတွက် ငွေကျပ် ၆၀၃၅၀၀ (ကျပ်ခြောက်သိန်းသုံးထောင်ငါးရာတိတိ)ကို "အငှားချထားသူ"သို့ စာချုပ်ချုပ်ဆိုလက်မှတ်ရေးထိုးပြီးရက်ပေါင်း(၃၀)အတွင်းပေးသွင်းရမည် အကယ်၍သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေ ကျပ် ၂၀၀၀(ကျပ်နှစ်ထောင်တိတိ)နှုန်းဖြင့် ပေးဆောင်ရမည်။

၉-၂ မြေအသုံးချမှုအတွက် ပရီမီယံကြေးပေးသွင်းရာတွင် "အငှားချထားသူ၏ နေပြည်တော် မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းသို့ပေးသွင်းရမည်။

**အပိုဒ်-၁၀ နှစ်စဉ်ငှားရမ်းခပေးချေခြင်း**

၁၀-၁ "အငှားချထားခြင်းခံရသူ" သည် အငှားချထားသည့် မြေဧရိယာ(၁၂.၀၇)ဧကအတွက် တစ်ဧကလျှင် ၂၀၀၀၀၀(ကျပ်နှစ်သိန်းတိတိ) နှုန်းဖြင့်ကျပ် ၂၄၁၄၀၀၀(ကျပ်နှစ်ဆယ့်လေးသိန်းတစ်သောင်း လေးထောင်တိတိ)ကို အငှားချထားသူထံသို့ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက်လက်မှတ်ရေးထိုးပြီးရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ပေးသွင်းရမည်။ နောင်နှစ်များတွင်လည်း နှစ်စဉ်သက်တမ်းမစတင်မီ ရက်ပေါင်း(၆၀)အတွင်းကြိုတင်၍ ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက တစ်ရက်လျှင်ဒဏ်ကြေးငွေကျပ် ၅၀၀၀(ကျပ်ငါးထောင်တိတိ)နှုန်း ပေးဆောင်ရမည်။

၁၀-၂ မြေငှားရမ်းခကို(၅)နှစ်လျှင်တစ်ကြိမ် ပြန်လည်ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည်ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသပေါက်ဈေးနှင့် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍လက်ရှိစာချုပ်ပါ ငှားရမ်းခ၏ ၁၀%ထက်မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ် မည်ဖြစ်သည်။

**အပိုဒ်-၁၁ အငှားချထားသူ၏ တာဝန်ဝတ္တရားများ**

၁၁-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(က) အငှားချထားသည့် မြေအတွက် မြေခွန်ကိုပေးဆောင်ရမည်။

(ခ) လိုအပ်သောခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာအဖွဲ့အစည်းများထံမှရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) အငှားချထားခြင်းခံရသူက မြေငှားရမ်းလုပ်ကိုင်ခြင်းအတွက် နိုင်ငံတော်အဖွဲ့အစည်းများသို့ ပေးချေရမည့် အခွန်အခများအားလုံးကို မြန်မာကျပ်ငွေဖြင့် ပေးချေနိုင်ရန်အတွက် အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။

(ဃ) အငှားချထားသည့် မြေတွင် အဆောက်အုံများကို ပိုမိုတိုးတက်ကောင်းမွန်စေရေး အတွက် လိုအပ်သော တည်ဆောက်မွမ်းမံပြင်ဆင်မှုများပြုလုပ်နိုင်ရန် အငှားချထား ခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

(င) အငှားချထားခြင်းခံရသူအနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကို ငြိမ်းချမ်း စွာနှင့် အေးဆေးစွာအသုံးပြုပိုင်ခွင့်ရပြီး အငှားချထားသူ၏ သဘောအရ (သို့မဟုတ်) အငှားချထားသူ၏ ယုံကြည်အပ်နှံသူတို့၏ပါဝင်ပတ်သက်မှု ဝင်ရောက် နှောက်ယှက်မှုမရှိစေရ။

**အပိုဒ်-၁၂ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ**

၁၂-၁ "အငှားချထားခြင်းခံရသူ"သည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) အဆိုပါမြေတွင် အခန်း(၃၅)ခန်းပါ နိုင်ငံတကာအဆင့်မီဟိုတယ်ကိုရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ် သန်း(၃၀၀၀)ဖြင့် တည်ဆောက်ပြီး ဟိုတယ်လုပ်ငန်းကို လုပ်ကိုင်ရမည်။

(ခ) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့်မြေပေါ်တွင် အဆောက်အဦများ ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူထံ (၃)လကြိုတင်၍ တင်ပြရမည်။ အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်၏ အပိုဒ်(၉)နှင့်အပိုဒ်(၁၀)တွင် ဖော်ပြထားသည့် မြေအသုံးချမှုပရီမီယံ(Land Use Premium)နှင့် နှစ်စဉ်ငှား ရမ်းခငွေများ (Annual Land Lease Rental)ကို ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့်ကာလများအတွင်း အငှားချထားသူသို့ မပျက်မကွက်ပေးချေရမည်။

(ဃ) ခွင့်ပြုမိန့်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသော မြေနှင့်အဆောက်အအုံများကို စာချုပ်သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင် ရွက်ရမည်။

(င) ဤသဘောတူစာချုပ်အား တည်ဆဲဥပဒေအရ တံဆိပ်ခေါင်းခွန်၊ ကင်းလွတ်ခွင့်သို့မဟုတ်သက်သာခွင့်မရရှိသေးလျှင်ထိုက်သင့်သောတံဆိပ်ခေါင်းခွန်များထမ်းဆောင်ရမည်။

(စ) နိုင်ငံတော်က ချမှတ်သောမူဝါဒများကို လိုက်နာ၍ တရားဥပဒေနှင့်ညီစွန်းသော လုပ်ငန်းများကို လုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဆ) အငှားချထားစဉ်အတွင်း မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သော အခြားအခွန်အခများကို သက်ဆိုင်ရာဌာနများသို့ အချိန်မှန်မှန်ပေးဆောင်ရမည်။

(ဓ) ဟိုတယ်နှင့် တည်းခိုခန်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ရရှိရန်အတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ ခွင့်ပြုမိန့်လိုင်စင်ရယူရမည်။

(ဈ) အငှားချထားခြင်းခံရသူသည် နိုင်ငံတော်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်ကို လိုက်နာရမည့်အပြင် လောင်းကစားခြင်းလုပ်ငန်းနှင့် မြန်မာ့ယဉ်ကျေးမှုနှင့်ဆီလျော်မှုမရှိသည့် ဖျော်ဖြေမှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မှုမရှိရပါ ။

**အပိုဒ်-၁၃ အာမခံထားရှိခြင်း**

၁၃-၁ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများဆောင်ရွက်ရာတွင် တည်ဆောက်မည့်အဆောက်အဦအတွက်မီးအာမခံနှင့် အခြားလုပ်ငန်း လိုအပ်ချက်အရ လိုအပ်သော အာမခံများကိုမြန်မာ့အာမခံဥပဒေနှင့် အညီထားရှိရမည်။

**အပိုဒ်-၁၄ ဓာတ်သတ္တု အရင်းအမြစ်များ**

၁၄-၁ ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း မမျှော်လင့်ဘဲငှားရမ်းသည့် မြေနှင့် အဆောက်အအုံတည်ရှိရာ မြေပေါ်မြေအောက်မှဓာတ်သတ္တုအရင်းအမြစ်များ ၊ ကျောက် မျက်ရတနာ များ၊ ရှေးဟောင်းယဉ်ကျေးမှုအနုပညာပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံ ဆိုင်ရာအရေးပါသော အံရာဝတ္ထုများ၊ သဘာဝသယံဇာတများကို မမျှော်လင့်ဘဲတွေ့ရှိ လျှင် "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ"သို့ ချက်ချင်းတင်ပြရမည်။ ထိုပစ္စည်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရက ပိုင်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားခြင်းခံရသူသည် သက်ဆိုင်ရာပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရအဖွဲ့အစည်းများသို့လွှဲပြောင်းတင်ပြရမည်။ထို့အပြင် အထက်ပါပစ္စည်းများအား နိုင်ငံတော် အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့်ရှိစေရမည်။

**အပိုဒ်-၁၅စာချုပ်ရပ်စဲခြင်း**

၁၅-၁ စာချုပ်ဝင်များသည် အောက်ဖော်ပြပါ အကြောင်းချင်းရာတစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ရပ်စဲခွင့်ရှိစေရမည်-

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် ပျက်ကွက်သဖြင့်တစ်ဖက်စာချုပ်ဝင်ကတရားဝင်စာဖြင့်အကြောင်းကြားသော်လည်း ရက်ပေါင်း(၃၀)အတွင်း လိုက်နာခြင်း မပြုသည့်အခါ၊

(ဂ) မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်ပြီး အဆိုပါ ဖြစ်ရပ်များသည် တဆက် တည်း (၆)လတာ ကာလ ထက်ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည် ဖော်နိုင်စွမ်း မရှိခြင်း

၁၅-၂ ဤသဘောတူစာချုပ်ပါ စာချုပ်ကို ရပ်စဲလိုကြောင်းနှစ်ဦးနှစ်ဖက်သဘောဆန္ဒဖြင့် တင်ပြလာလျှင် စာချုပ်ရပ်စဲခွင့်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှ သာလျှင် အကျိုးသက်ရောက်မှု ရှိစေရမည်။

**အပိုဒ်-၁၆မြေသို့ပြန်လည်ဝင်ရောက်နိုင်ခြင်း**

၁၆-၁ အငှားချထားခြင်းခံရသူက စာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း အငှားချထား သူက ချအပ်သောနို့တစ်စာပါကာလများအတွင်း မဆောင်ရွက်မှု(သို့မဟုတ်)မလိုက်နာမှုကို ပြင်ဆင်ပေးရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊အငှားချထားသူသည် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ဆုံးခန်းတိုင် ရောက်မည်ဟူ၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။ ဤသို့ စာချုပ်ရပ်စဲ ခြင်းမြေသို့ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ အငှားချထားသူက အငှားချထားခြင်းခံရသူထံမှရရှိမည့် အခွင့်အရေးများနှင့် တောင်းဆို ပိုင်ခွင့်များကို မထိခိုက်စေရ။

**အပိုဒ်-၁၇ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၁၇-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စာချုပ်သက်တမ်း ကုန်ဆုံးသည့်အခါဖြစ်စေ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါဖြစ်စေ ၊ ယင်းသို့ ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့မှစ၍ မြေပေါ်ရှိ မူလအငှားချထားစဉ်ကမပါရှိသော အဆောက် အဦများအားလုံးကို အငှားချထားခြင်းခံရသူ၏ အစီအစဉ်ဖြင့် ရက်ပေါင်း (၉၀)အတွင်း ရှင်းလင်းဖယ်ရှားပြီး ၊ အငှားချထားသည့်မြေ(၁၂.၀၇)ဧကကို ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

၁၇-၂ အငှားချထားခြင်းခံရသူသည် အထက်အပိုဒ်(၁၇-၁)ပါ သတ်မှတ်ကာလထက် ကျော်လွန်သည့်တိုင် ပြန်လည်အပ်နှံခြင်း မပြုနိုင်ပါကကျော်လွန်သည့်ကာလအတွက် တစ်ရက်လျှင် ဒဏ်ကြေးငွေ ၁၀၀၀၀၀(ကျပ်တစ်သိန်းတိတိ)နှုန်းဖြင့် ပေးဆောင်ရမည်။

**အပိုဒ်-၁၈မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

၁၈-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး ၊ လေဘေး ၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ် တားမြစ်ချက်များတရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း၊ စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်ကလိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်း မလွန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုထိခိုက်ဆုံးရှုံးစေလျှင် အငှားချထား ခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့် မရှိ စေရ။

၁၈-၂ ထို့သို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်ပေါ်ပေါက်လာပါက၊ ယင်းဖြစ်ရပ် ဖြစ်ပေါ်သည့် အချိန်မှ (၁၄)ရက်အတွင်း အငှားချထားခြင်း ခံရသူသည် အငှားချထားသူသို့ ချက်ချင်း စာဖြင့်ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး၊ မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင် သည်။

**အပိုဒ်-၁၉ အငြင်းပွားမှုများဖြေရှင်းခြင်း**

၁၉-၁ ဤစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာညှိနှိုင်း ဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍ မရပါကထိုအငြင်းပွားမှုကို ဥပဒေနှင့် အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့် ရှိသောတရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

**အပိုဒ်-၂၀ဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း၊ညှိနှိုင်းခြင်း**

၂၀-၁ လုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေ များ (သို့မဟုတ်)စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်ညှိနှိုင်း ဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူ ပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

**အပိုဒ်-၂၁- လျှို့ဝှက်ချက်**

၂၁-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင် နှစ်ဦးနှစ်ဖက် စလုံးသည် အဲရေးကြီးသောစာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို အခြား တတိယအဖွဲ့ အစည်းသို့ လွှဲပြောင်းပေးခြင်းမပြုရ။ သို့ရာတွင် ဟိုတယ်လုပ်ငန်းပိုင်ရှင်၏ သဘောတူဆုံးဖြတ်ချက်နှင့် အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် အခြားအဖွဲ့အစည်းသို့ လွှဲပြောင်းပေးနိုင်ခွင့်ရှိစေရမည်။

**အပိုဒ်-၂၂ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၂-၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရမည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာထိန်းသိမ်းကာကွယ်စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့်မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင် ဆိုင်ရာထိခိုက်ပျက်စီးဆုံးရှုံးခြင်းများအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း ၊ လေထုညစ်ညမ်းမှုကိုမဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့်ပစ်သည့် အစိတ်အပိုင်းများကို အန္တရာယ်ကင်းရှင်းစေရေးဆိုင်ရာ လိုအပ်သောအကာအကွယ်များ၊ အစီအစဉ်များကို တည်ဆဲဥပဒေနှင့်အညီဆောင်ရွက်ထားရှိရမည်။

**အပိုဒ်-၂၃ စာပေးစာယူပြုလုပ်ရန်ကိစ္စ**

၂၃-၁ နို့တစ်စာများ(သို့မဟုတ်)အခြားအချက်အလက်အကြောင်းကြားချက်များကို မြန်မာဘာ သာဖြင့်ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့် ဖြစ်စေ ရေးသားပြီးစာတိုက်မှတ်ပုံတင်ချောစာဖြင့် ဖြစ်စေ၊ တဲလက်(စ်)ဖြင့် ဖြစ်စေ၊ ဖက်(စ်)ဖြင့် ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာ ဆက်သွယ်ရေး နည်းစနစ်ဖြင့်ဖြစ်စေ ၊ သက်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည် ဆက်သွယ် နိုင်ရန်လိပ်စာမှာ ဤစာချုပ်တွင် ဖော်ပြပါရှိသော အောက်ဖော်ပြပါလိပ်စာအတိုင်းဖြစ် သည်-

(က) "အငှားချထားသူ"အတွက်-

(၁) အမည် ဒေါက်တာညီညီကျော်

(၂) ရာထူး ညွှန်ကြားရေးမှူးချုပ်

(၃) လိပ်စာ ရုံးအမှတ်(၃၉)၊ နေပြည်တော်

(၄) ဖုန်းအမှတ် ၀၆၇-၄၀၅၀၁၅

(၅) ဖက်(စ်)အမှတ် ၀၆၇-၄၀၅၄၂၇

(၆) E.mail dg.fd@ mptmail .net.mm

( ခ ) "အငှားချထားခြင်းခံရသူ"အတွက် -

(၁) အမည် ဒေါ်ကြူကြူသင်း

(၂) ရာထူး ဟိုတယ်ပိုင်ရှင်

(၃) လိပ်စာ အမှတ် (၄၄)၊ ကန်သာ(၁)အကွက်၊ ညောင်ရွှေမြို့နယ် ၊ ရှမ်းပြည်တောင်ပိုင်း

(၄) ဖုန်းအမှတ် ၀၈၁-၂၀၉၀၂၅၊ ၂၀၉၂၉၁၊ ၂၀၉၂၉၂၊ ၂၀၉၂၉၃၊ ၂၀၉၄၉၄

(၅) Fax ၀၈၁-၂၀၉၂၉၅

၂၃-၂ ယခုကဲ့သို့ စာရွက်စာတမ်းများကို ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှ လက်ခံရရှိကြောင်း အထောက်အထားတစ်စုံတစ်ရာရရှိပြီးမှသာ ပေးပို့ခြင်းကို အတည်ပြုနိုင်သည်။ အကယ်၍ လိပ်စာအပြောင်းအလဲရှိပါကစာဖြင့် အခြားတစ်ဖက်သို့ရေးသား အကြောင်းကြားရမည်။

**အပိုဒ်-၂၄ ဘဏ်အာမခံငွေ**

၂၄-၁ အငှားချထားခြင်းခံရသူမှ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် တစ်နှစ်ငှားရမ်းခဖြစ်သော ကျပ်၂၄၁၄၀၀၀(ကျပ်နှစ်ဆယ့်လေးသိန်းတစ်သောင်းလေးထောင်တိတိ) အား အငှားချထားသူ၏ နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာန အမည်ဖြင့် ဖွင့်လှစ်ထားရှိသော ငွေစာရင်းအမှတ် ၊ MD-010613 တွင် ဘဏ်အာမခံ ထားရှိပေးရမည်။ အဆိုပါ ဘဏ်အာမခံငွေကို ဤစာချုပ်လက်မှတ်ရေးထိုးပြီး နောက် ရက်ပေါင်း (၃၀)အတွင်း တင်သွင်းရမည်။ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့် ကာလပြီးဆုံးသည့် အချိန်တွင် ဘဏ်အာမခံငွေကို ပြန်လည်ထုတ်ယူနိုင်ပါသည်။

၂၄-၂ အငှားချထားခြင်းခံရသူသည် စာချုပ်စည်းကမ်းတစ်ရပ်ရပ်ကို ချိုးဖောက်ပါက "အငှားချထားသူ" မှ အထက်အပိုဒ်(၂၄-၁)ပါ ဘဏ်အာမခံငွေကို သိမ်းယူခွင့်ရှိသည်။

**အပိုဒ်-၂၅ လုပ်ငန်းများလွှဲပြောင်းပေးအပ်ခြင်း**

၂၅-၁ အငှားချထားသော ကာလအတွင်း အငှားချထားခြင်းခံရသူသည် မိမိ၏ အခွင့်အရေးများ လုပ်ပိုင်ခွင့်များကို အခြားပုဂ္ဂိုလ်အဖွဲ့အစည်းများအား လွှဲပြောင်းပေးခြင်းပြုလုပ်လိုပါက အငှားချထားသူအား ကြိုတင်အသိပေးအကြောင်းကြားရမည်။

၂၅-၂ အငှားချထားသူ၏ သဘောတူခွင့်ပြုချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရယူဆောင်ရွက်ရမည်။

**အပိုဒ်-၂၆အထွေထွေ**

၂၆-၁ ဤသဘောတူစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသည့် မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ အဆောက်အဦပုံစံများ အထောက်အထားများစသည့် နောက်ဆက်တွဲများသည် ဤ စာချုပ်၏ တစ်စိတ်တစ်ဒေသအဖြစ် မှတ်ယူရမည်။

၂၆-၂ ဤသဘောတူစာချုပ်ကို မိတ္တူတူနှစ်စောင်တွင် လက်မှတ်ရေးထိုးပြီး စာချုပ်အသီးသီးသည် ဥပဒေအရတူညီမျှတစွာတရားဝင်လျှက် စာချုပ်ဝင်တစ်ဦးစီအတွက် မူရင်းတစ်စောင်အဖြစ် သတ်မှတ်ရမည်။

ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးစလုံး၏ တရားဝင်ကိုယ်စားလှယ်များမှ ကိုယ်တိုင်ဖတ်ရှုနားလည်ကြပြီးဖြစ်၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်၌ အထက်တွင်ဖော်ပြ ထားသည့် ၂၀၁၆ ခုနှစ်၊...................လ ၊(    )ရက်နေ့တွင် အောက်ဖော်ပြပါ အသိသက်သေများ၏ ရှေ့မှောက်တွင် မိမိ၏ရုံးတံဆိပ်များ အသီးသီးခပ်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| **" အငှားချထားသူ "(ကိုယ်စား)** | **"အငှားချထားခြင်းခံရသူ "(ကိုယ်စား)** |
|---|---|
| ( ဒေါက်တာညီညီကျော် ) | ( ဒေါ်ကြူကြူသင်း) |
| ညွှန်ကြားရေးမှူးချုပ် | ဟိုတယ်ပိုင်ရှင် |

<u>**အသိသက်သေများ**</u>

| အငှားချထားသူ၏ အသိသက်သေ | | အငှားချထားခြင်းခံရသူ၏ အသိသက်သေ | |
|---|---|---|---|
| (၁) | | (၂) | |
| အမည် | ...................... | အမည် | ...................... |
| ရာထူး | ...................... | ရာထူး | ...................... |
| လိပ်စာ | ...................... | မှတ်ပုံတင်အမှတ် | ...................... |
| | | | ...................... |
| | | လိပ်စာ | ...................... |

အင်းလေးခေါင်တိုင် (ဟူဝင်) ဟိုတယ် ရေပေါ်ဆောင် အဆောက်အဦ မြေ
(၁၂.၀၇ )ဧကအားမြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်မြေနေရာ ရေိယာပြမြေပုံ




ရည်ညွှန်းချက်

၁။မူလပယ်ဖျက်ပြီးဧရိယာ (၁၉.၅)ဧက - 

၂။မြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်
ဧရိယာ (၁၂.၇) ဧက - 

၃။မီးလောင်ခဲ့သည့် တည်းခိုဆောင်များ
ဧရိယာ (၁.၇၃) ဧက - 

၄။ယခင်ခွင့်ပြုပယ်ဖျက်ပေးစဉ်က ကျော်လွန်
အဆောက်အဦဧရိယာ(၃.၃၇) ဧက - 

(စိန်ထွန်း)
အုပ်ချုပ်ရေးမှူး
အင်းလေးကန်ဘေးမဲ့တော
ညောင်ရွှေမြို့

## အင်းလေးခေါင်တိုင် ( ဟူပင်) ဟိုတယ် ရေပေါ်ဆောင် အဆောက်အဦး မြေ
## (၁၂.၀၇ )ဧကအားမြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်မြေနေရာ မြေတိုင်းမှတ်စု

| No | Station | Forward-B | Distance | N-Latitude | E-Longitude | Remark |
|---|---|---|---|---|---|---|
| 1 | A to B | 97° true | 0.1 mi | N20 35.580 | E96 52.611 | |
| 2 | B to C | 195° true | 0.2 mi | N20 35.567 | E96 52.723 | |
| 3 | C to D | 273° true | 287 ft | N20 35.429 | E96 52.684 | |
| 4 | D to E | 285° true | 137 ft | N20 35.431 | E96 52.634 | |
| 5 | E to F | 303° true | 157 ft | N20 35.437 | E96 52.611 | |
| 6 | F to A | 10° true | 0.2 mi | N20 35.450 | E96 52.588 | ( 12.07 ) Acs |

(စိန်ထွန်း)
အုပ်ချုပ်ရေးမှူး
အင်းလေးကန်သားမဲ့တော
ညောင်ရွှေမြို့

အင်းလေးခေါင်တိုင် (ဟူပင်) ဟိုတယ် ရေပေါ်ဆောင် အဆောက်အဦ မြေ( ၁၂.၀၇ )ဧကအား မြေငှားရမ်းခွင့်ပြုပါရန် လျှောက်ထားသည့်မြေနေရာ၏ နယ်နိမိတ်လားရာဖော်ပြချက်

မြောက်ဘက်။ ။ အင်းလေးကန်ဘေးမဲ့တောဧရိယာအတွင်း မူလခွင့်ပြုပယ်ဖျက်ပြီး ခေါင်တိုင် (ဟူပင်) ဟိုတယ် အရှေ့ဘက် နယ်နိမိတ်နှင့် တဆက်တစပ်တည်း G.P.S အညွှန်းအရ မြောက်လတ္တီတွဒ်၂၀° ၃၅.၅၈၀' နှင့် အရှေ့လောင်ဂျီတွဒ် ၉၆°၅၂.၆၁၁' အမှတ် (A) မှ ရှေ့ရှု ဘယ်ရင် ၉၇° ဖြင့် ၄၀၀ ပေအကွာအမှတ် (B) အထိ၊

အရှေ့ဘက်။ ။ ထိုမှ ရှေ့ရှုဘယ်ရင် ၁၉၅° ဖြင့် ၈၇၂ ပေအကွာ အမှတ် (C) အထိ၊

တောင်ဘက်။ ။ ထိုမှရှေ့ရှုဘယ်ရင် ၂၇၃° ဖြင့် ၂၈၇ ပေအကွာ အမှတ် (D) အထိ၊ ထိုမှ ရှေ့ရှု ဘယ်ရင် ၂၈၅° ဖြင့် ၁၃၇ ပေအကွာ အမှတ် (E) အထိ၊ ထိုမှ ရှေ့ရှုဘယ်ရင် ၃၀၃° ဖြင့် ၁၅၇ ပေအကွာ အမှတ် (F) အထိ၊

အနောက်ဘက်။ ။ ထိုမှရှေ့ရှုဘယ်ရင် ၁၀° ဖြင့် ၈၀၀ ပေအကွာမူလခွင့်ပြုပယ်ဖျက်ပြီးခေါင်တိုင် (ဟူပင်) ဟိုတယ်အရှေ့ဘက်နယ်နိမိတ်နှင့်တဆက်တစပ်တည်းမူလစတင်ရာ အမှတ်(A) အထိ။

(စိန်ထွန်း)
အုပ်ချုပ်ရေးမှူး
အင်းလေးကန်ဘေးမဲ့တော
ညောင်ရွှေမြို့




FRONT ELEVATION

| | |
|---|---|
| OWNER / APPLICANT | |
| PROJECT | INLE KHAUNG TAI HOTEL BUILDING DRAWING |
| BLOCK NO. | |
| LOT NO. | |
| SUBJECT | FRONT ELEVATION |
| SCALE | AS SHOWN |
| DATE | |
| SHEET NO. | |
| REVISION NO. | |
| DATE | |
| L.S | |
| L.P | |

ကျော်ဝင်း (L.S-563)
လိုင်စင်ရအကြီးတန်းအင်ဂျင်နီယာ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
အမှတ်(၂၄)ငုဝါလမ်း၊ချမ်းသာရွှေပြည်အိမ်ရာ
မြောက်ဒဂုံမြို့နယ်၊ရန်ကုန်မြို့။
Ph :09-5142542




# LEFT SIDE ELEVATION

| | | | |
|---|---|---|---|
| OWNER / APPLICANT | - | | |
| PROJECT | INLE KHAUNG TAI HOTEL BUILDING DRAWING | | |
| | BLOCK NO. | | |
| | LOT NO. | | |
| SUBJECT | LEFT SIDE ELEVATION | | |
| SCALE | AS SHOWN | SHEET NO. | |
| DATE | - | | |
| REVISION NO. | | DATE | |
| L.S | | | |
| L.C | | | |

ကျော်ဝင်း (L.S-563)
လိုင်စင်ရအကြီးတန်းအင်ဂျင်နီယာ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
အမှတ်(၂၄)ငုဝါလမ်း၊ချမ်းသာရွှေပြည်အိမ်ရာ
မြောက်ဒဂုံမြို့နယ်၊ရန်ကုန်မြို့။
Ph :09-5142542

COTTAGE အဆောက်အဦးပုံ ။



COTTAGE အခန်းပုံ ။



2012 - 0142882

မြေစာရင်းပုံစံ – ၁၀၅

မှန်ကန်ကြောင်း သက်သေခံ / သက်သေမခံ သော လက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ လက်ခံရေးကူးရန်ပုံစံ

SLRD

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် ရုံးခွန်တံဆိပ်ခေါင်း

၄၀၀ ကျပ် K 400

| | |
|---|---|
| တိုင်းဒေသကြီး/ ပြည်နယ်<br>ရှမ်း |  |
| ခရိုင်<br>တောင်ကြီး | |
| မြို့နယ်/ မြို့နယ်ခွဲ<br>ညောင်ရွှေ | |
| ရပ်ကွက်/ ကျေးရွာအုပ်စု<br>ခေါင်တိုင် | |
| ကွင်း/ အကွက်အမှတ်နှင့်အမည်<br>၆၇ – ခေါင်တိုင်ရွာကွင်း | |
| ဦးပိုင်အမှတ်/ မြေကွက်အမှတ် | မြေပုံနှင့်စာရင်းမှ တွဲလျက်ပြထားပါသည်. |

| ဦးပိုင် အမှတ် | အခွန်စည်းကြပ်ခံရသူ/ ပိုင်ရှင်/ ဂရန်ရှင်/ အငှားဂရန်ရှင် အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့် အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| | × × × × | A | ရွာမြေ | ၁၉.၅၀ | [illegible] |

| | | |
|---|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | သက်ဆိုင်ရာ ဌာနသို့ တင်ပြရန် | [illegible] |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည် – ဒေါ်ကြူကြူသင်း

လျှောက်လွှာတင်သည့်နေ့စွဲ – ၂၇.၁၂.၂၀၁၂

လျှောက်ထားသူသို့ ထုတ်ပေးသည့်နေ့စွဲ – ၂၈.၁၂.၂၀၁၂

ယခုအထက်တွင် ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော ( ၂၀၁၂ ) ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းတာခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် – မြေတိုင်း ( ၄ )

နေ့စွဲ – မြို့နယ်မြေစာရင်းဦးစီးဌာန ညောင်ရွှေမြို့

မြို့နယ်မြေစာရင်းဦးစီးဌာန ရုံးတံဆိပ် ညောင်ရွှေမြို့နယ်

တိုက်ဆိုင်စစ်ဆေးပြီး မှန်ကန်ပါသည်။

လက်ထောက်ဦးစီးမှူးလက်မှတ် – လက်ထောက်ဦးစီးမှူး

နေ့စွဲ မြို့နယ်မြေစာရင်းဦးစီးဌာန ညောင်ရွှေမြို့

စိစစ်အတည်ပြုပါသည်။

မြို့နယ်မြေစာရင်းဦးစီးဌာနမှူးလက်မှတ် မြို့နယ်မြေစာရင်းဦးစီးဌာနမှူး

ညောင်ရွှေမြို့ နေ့စွဲ

# ဟူပင်ဟိုတယ်တည်နေရာပြမြေပုံ




ရည်ညွှန်းချက်
လျှောက်ထားသည့်မြေနေရာ

မြေတိုင်း (၄)
မြို့နယ်မြေစာရင်းဦးစီးဌာန
ညောင်ရွှေမြို့

လက်ထောက်ဦးစီးမှူး
မြို့နယ်မြေစာရင်းဦးစီးဌာန
ညောင်ရွှေမြို့

မြို့နယ်မြေစာရင်းဦးစီးဌာနမှူး
ညောင်ရွှေမြို့

KANBAWZA BANK
KYAUKTADAR(IBD) BRANCH
No(33-39) Corner of Bank St & Maharbandoola St,
Kyauktada Tsp. Yangon
Ph: (01)373952-53,
Fax: 373962-63

Date : 16 March, 2015

ACCOUNT NO : 06010906004027101 (USD)
NAME : HUPIN HOTEL
NRC : , 13/NYAYANA(N)026578,
ADDRESS : NO.66, KAN THAR QTR , NYAUNG SHWE, SHAN STATE

PHONE : 95143874

## Statement Of Transaction For The Date Between 16/09/2014 and 13/03/2015

| Date_Time | Description | Debit | Credit | Balance |
|---|---|---|---|---|
| 16/09/2014 | Opening Balance - - | | | 0.00 |
| 16/09/2014 | By Cash - Deposit Cash transaction Cash Deposit - - | | 100.00 | 100.00 |
| 16/09/2014 | To Transfer - COMMISSION 330601017 - Cash Deposit - - | 0.30 | | 99.70 |
| 17/10/2014 | By Transfer - A/C Transfer - - - 02098140000624450 (004b) | | 9,800.00 | 9,899.70 |
| 26/12/2014 | By Transfer - A/C Transfer - - - 0016OT1889989-001r | | 1,431.75 | 11,331.45 |
| 05/01/2015 | By Transfer - A/C Transfer - - - AYEYARWADY BANK LTD, FDA.100856 TO HUPIN HOTEL | | 62,795.00 | 74,126.45 |
| 05/01/2015 | To Transfer - A/C Transfer - - - TR CHARGES FOR MICB FROM AYEYARWADY BANK LTD, FDA.100856 | 3.00 | | 74,123.45 |
| 29/01/2015 | By Transfer - A/C Transfer - - - FROM AYEYARWADY BANK LTD (FDA-100856) | | 50,500.00 | 124,623.45 |
| 29/01/2015 | To Transfer - A/C Transfer - - - | 3.00 | | 124,620.45 |
| 17/02/2015 | By Transfer - A/C Transfer - - - AYA BANK LTD, FDA.100856 TO HUPIN HOTEL | | 43,897.00 | 168,517.45 |
| 17/02/2015 | To Transfer - A/C Transfer - - - TR CHARGES FOR MICB TR FROM AYA BANK LTD. FDA.100856 | 3.00 | | 168,514.45 |
| 13/03/2015 | Closing Balance | | | 168,514.45 |
| No. of Debit : 4 | Debit Total | 9.30 | | |
| No. of Credit : 6 | Credit Total | | 168,523.75 | |

**Thank You For Banking With KYAUKTADAR(IBD) BRANCH**

**Please report any discrepancies found on your statement immediately.**
**N.B – Statement will not be sent unless there is a change of transaction.**

For Balance Enquiry Only

**Asst: / DY Manager**

Asst; Manager
Kyauktada Branch
Kanbawza Bank Limited

Without Reversal

KBZ BANK
ကမ္ဘောဇဘဏ်လီမိတက်

No.615/1, Pyay Road,
Kamayut Township,
Yangon, Myanmar.
Tel: (+951) 538 075-76,
538 078-80
Fax: (+951) 538 069-71

No. 0761220007885 Dated , 16 March , 2015

To,

DAW KYU KYU THIN , U SOE THU
13/NYAYANA(N)026578 , 9/TATHANA(N)123768
NO-I/5-A, SABAI ST;, PAN HLAING HOUS;,
KYEEMYINDINE, YANGON

**DEAR SIR,**

We hereby certify that the balance standing at the credit of the account of DAW KYU KYU THIN ( 0761220007885) with the KANBAWZA BANK Ltd. Kanbawza Bank (Kyeemyindine Branch) at the close of business on the(16 March, 2015) was K 124,863,573.05(One Hundred and Twenty Four Million , Eight Hundred and Sixty Three Thousand , Five Hundred and Seventy Three Kyats Five Pyas Only ).

Yours Faithfully

16/3/15

Branch Manager
Kyeemyindine Br
Kanbawza Bank Ltd.

AYA Bank
ဧရာဝတီဘဏ်
Your Trusted Partner

TO 0070-2-24-01-000043-2
KYU KYU THIN/CHO PYONE YEE 13/NYAYANA(N)026578 # 13/-TA-KA-NA-(N)-021488

Dear Sir/Madam,

We hereby certify that the balance standing at the Credit of the account of KYU KYU THIN/CHO PYONE YEE 13/NYAYANA(N)026578 # 13/-TA-KA-NA-(N)-021488 A/C no. 0070-2-24-01-000043-2 with the AYEYARWADY BANK at the close of business on the 16/03/2015 was K : 109,598,825.28 ( One Hundred Nine Million Five Hundred Ninety-Eight Thousand Eight Hundred Twenty-Five Kyat And Twenty-Eight Pya ).

Yours faithfully,

(Manager)
ACCOUNTS DEPARTMENT

No.1 Ywama Curve
Ba Yint Naung Road
Block 2 Hlaing Township
Yangon, Myanmar

T 951-500123, 531067~9, 531078~9
F 951-530968, 527797, 531045
E info@ayabank.com.mm
www.ayabank.com
www.facebook.com/AyeyarwadyBank

# MYANMA ECONOMIC BANK

## SAVINGS BANK BRANCH (1)

## 49/53 PANSODAN ROAD

## YANGON

Dated : 16 - 3 - 2015

## BANK BALANCE CONFIRMATION CERTIFICATE

We hereby certify that the balance standing at the credit of the Account No. **SS 247733** under name of **KYU KYU THIN (A) KYU KYU SWE** ( NRC : 13/ NYA YA NA (N) 026578 ) ( NRC : YHE - 007989 ) + **AUNG SAN WIN** ( NRC : 12/ AH LA NA (N) 019193 ) as at Ks. 1377,98,323.00 (Kyat One Thousand Three Hundred Seventy Seven Lakhs Ninety Eight Thousand Three Hundred Twenty Three Only) on the date of ( 16-3-2015 ).

Yours faithfully,

( Khin Mar Thin )
MANAGER
Myanma Economic Bank
Savings Bank Branch (1)
Yangon.

013867

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၉၀၈...../ ၂၀၁၅–၂၀၁၆ (ရက)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ...ဟူပင်..ကုမ္ပဏီ.လီမိတက်..................
......................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၅.နှစ်၊ .....ဇွန်.....လ၊ ၁၆..ရက်နေ့တွင် မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(နီလာမူ၊ ညွှန်ကြားရေးမှူး)
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ..............908.......... of 2015-2016 (YGN)

I hereby certify that ......................................HU..PIN..COMPANY...LIMITED
..........................................................................................is this day incorporated under the Myanmar Companies Act and that the company is Limited.

Given under my hand at Yangon this ........................SIXTEENTH............day of ........JUNE..,.TWO.THOUSAND.AND..FIFTEEN.........................................................

**For Director General**
**( Nilar Mu, Director )**
Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဒေါ်ကြူကြူသင်း(ခ)ကြူကြူဆွေ (၁၃/ညရန(နိုင်)၀၂၆၅၇၈

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၄၀)၊ ကံသာရပ်ကွက်၊ ညောင်ရွှေမြို့၊ ရှမ်းပြည်နယ်(တောင်ပိုင်း)။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၉-၄၄၈၀၀၃၃၇၆

(ဃ) ဒါရိုက်တာများ အမည်စာရင်း- (၁) ဒေါ်ဝင်းဝင်းမြင့် ၁၃/ညရန(နိုင်)၀၂၆၅၇၇
(၂) ဦးအောင်မြင့် ၁၃/ညရန(နိုင်)၀၂၆၅၂၇

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၁၆-၆-၂၀၁၅ )မှ ( ၁၅-၆-၂၀၂၀ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီး မြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင် လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင် မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(သင်းသင်းမြတ်၊ ဒုတိယညွှန်ကြားရေးမှူး)

လာရောက်ထုတ်ယူသည့်ရက်စွဲ၊ 26 JUN 2015

FORM VI

# RETURN OF ALLOTMENTS
# THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the allotment is made)

Return of allotment from the 29th of June 200 2015

on the of 200 of the * HU PIN COMPANY LIMITED

Made pursuant to Section 104 (1)

Number of the shares allotted payable in cash .................... 300 Shares

" " " " ....................

Nominal amount of the shares so allotted .................... Ks. 30,000,000/-

" " " " ....................

Amount paid or due and payable on cash such share .................... Ks. 100,000/-

" " " " .................... ( 100% Paid-up )

Number of ordinary shares allotted for a consideration other than cash

Nominal amount to be ordinary shares so allotted ....................

Amount to be treated as paid on each such share ....................

The consideration for which such share have been allotted is as follow : -

---

**NOTE** In making a return of allotments under Section 104 (1) the Myanmar Companies Act., it is to be noted that -

1. When a return include several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.

Distinguish between preference, ordinary, or other description of shares.

**Presented for filing by :** Daw Kyu Kyu Thin ( M.D.)

Name, Address and Description of Allotees

| Name & N.R.C No | Address | Description | Number of the shares allotted | |
|---|---|---|---|---|
| | | | Preference | Ordinary |
| 1 Daw Kyu Kyu Thin @ Kyu Kyu Swe 13 / Nya Ya Na ( Naing ) 026578 | Kan Tha Quarter, Nyaungshwe Township, Shan State. (South). | Merchant | | 100 shares |
| 2 Daw Win Win Myint 13 / Nya Ya Na ( Naing ) 026577 | Kan Tha Quarter, Nyaungshwe Township, Shan State. (South). | Merchant | | 100 shares |
| 3 U Aung Myint 13 / Nya Ya Na ( Naing ) 026527 | Kan Tha Quarter, Nyaungshwe Township, Shan State. (South). | Merchant | | 100 shares |
| | | Total | | 300 shares |

Signature

Date 29 - 6 - 2015

## FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

**( Myanmar Companies Act, See Section 87 )**

Name of Company : HU PIN COMPANY LIMITED

Presented by : Daw Kyu Kyu Thin ( M.D.)

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1 Daw Kyu Kyu Thin @ Kyu Kyu Swe | 13 / Nya Ya Na ( Naing ) 026578 | Kan Tha Quarter, Nyaungshwe Township, Shan State. (South). | Merchant | Appointed as Managing Director w.e.f 29 - 6 - 2015 |
| 2 Daw Win Win Myint | 13 / Nya Ya Na ( Naing ) 026577 | Kan Tha Quarter, Nyaungshwe Township, Shan State. (South). | Merchant | Appointed as Director w.e.f 29 - 6 - 2015 |
| 3 U Aung Myint | 13 / Nya Ya Na ( Naing ) 026527 | Kan Tha Quarter, Nyaungshwe Township, Shan State. (South). | Merchant | Appointed as Director w.e.f 29 - 6 - 2015 |

)TE : (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ............................ and by writing against any former Director's name the the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ..................................................

Designation ..................................................

ted this .......................................... 29 - 6 - 2015

m (26)

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဟူပင် ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# HU PIN COMPANY LIMITED

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဟူပင် ကုမ္ပဏီ လီမိတက်

၏

**သင်းဖွဲ့မှတ်တမ်း**

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် **ဟူပင် ကုမ္ပဏီ လီမိတက်**
ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၉၀၀၀၀၀၀၀၀၀ /-( ကျပ် **သန်းကိုးထောင်** တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀၀.၀၀ /-( ကျပ် **တစ်သိန်း** တိတိ ) တန်အစုရှယ်ယာပေါင်း ( ၉၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

## ၅။ ကုမ္ပဏီတည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ

၁။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၂။ သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၃။ တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာရောင်းဝယ်ခြင်း
၄။ ရေထွက်ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၅။ ဓါတ်မြေဩဇာနှင့် ပိုးသတ်ဆေးများရောင်းဝယ်ခြင်း
၆။ ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများရောင်းဝယ်ခြင်း
၇။ စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများရောင်းဝယ်ခြင်း
၈။ အိမ်သုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၉။ လူသုံးကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၀။ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများရောင်းဝယ်ခြင်း
၁၁။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၂။ ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများရောင်းဝယ်ခြင်း
၁၃။ ကိရိယာတန်ဆာပလာအမျိုးမျိုးရောင်းဝယ်ခြင်း
၁၄။ ဆေးနှင့်ဆေးပစ္စည်းများရောင်းဝယ်ခြင်း
၁၅။ စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများရောင်းဝယ်ခြင်း
၁၆။ အထည်အလိပ်နှင့် အဝတ်အထည်များရောင်းဝယ်ခြင်း
၁၇။ စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများရောင်းဝယ်ခြင်း
၁၈။ ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများရောင်းဝယ်ခြင်း
၁၉။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
၂၀။ (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
၂၁။ တိရိစ္ဆာန်မွေးမြူခြင်းနှင့် တိရိစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
၂၂။ ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
၂၃။ ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရိစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
၂၄။ လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၅။ အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၆။ ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
၂၇။ လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
၂၈။ ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
၂၉။ စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၀။ လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
၃၁။ အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
၃၂။ အစိုးရ၏ ခွင့်ပြု ချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
၃၃။ အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
၃၄။ ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
၃၅။ ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
၃၆။ ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
၃၇။ သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
၃၈။ ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
၃၉။ တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
၄၀။ စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
၄၁။ စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
၄၂။ ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
၄၃။ လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက်ခြင်း လုပ်ငန်းများ၊
၄၄။ ဆောက်လုပ်ရေးလုပ်ငန်း
၄၅။ ကျောက်မျက်လုပ်ငန်း
၄၆။ ခရီးသွားလုပ်ငန်း
၄၇။ ဟိုတယ်လုပ်ငန်း
၄၈။ အသေးစားငွေရေးကြေးရေးလုပ်ငန်း

၆။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိ စေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်း၌ အချိန် ကာလအားလျှော်စွာ တည်မြဲနေသည့် တရားဥပဒေ ပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထား ရှိပါသည်။

